

# رائد الإخوان في تجويد القرآن

تأليف : المفتى عبد الرحيم المظاهري القاسمي الندوي
راجعه : المفتى محمد أسامة المظاهري الندوي

# ညီနောင်လမ်းညွှန်

## သဂျ်ဝီးဒ်ကျမ်းမွန်

ပြုစုသူ – ဂျာမေ့အသွလ်ကောင်ဆရစ်လ်အစ်စ်လာမီယဟ်
ကျောင်းအုပ်ဆရာကြီး
မွဖ်သီ အဗ်ဒုရ်ရဟီးမ် မဇွာဟော့ရီ ကာစေ့မီ နဒ်ဝီ

တည်းဖြတ်သူ – မွဖ်သီ မို့ဟမ္မဒ် အို့စာမဟ် မဇွာဟော့ရီ၊ နဒ်ဝီ



# مقدمة المؤلّف

## ကျမ်းပြုသူ၏အမှာစာ

اَلْـحَمْدُ لِلّٰهِ الَّذِىْ أمـر المؤمنين بواسطة نبيّه ﷺ بـقوله ﴿ وَرَتِّلِ الْقُرْآنَ تَرْتِيْلاً ﴾.والصّلاة والسّلام على من قال( إِنَّ اللّٰهَ يحبّ أن يقرأ القرآن كما أُنزل.) وعلى اله وصحبه ومن تبعهم بإحسان إلى يوم الدين . وبعد

ကုရ်အာန်ကျမ်းတော်မြတ်သည် ကမ္ဘာ့လူသားထုတစ်ရပ်လုံးအတွက် အဘက် ဘက်မှ ခိုင်မာကျစ်လစ်ပြီး ပြည့်စုံကုံလုံသော လူ့ဘဝလမ်းညွှန်ဥပဒေ နည်းစနစ်များ၏ မဟာ့မဟာရေသောက်မြစ်ကျမ်းကြီးဖြစ်သည်။ ထို့အတူ ကမ္ဘာရှိ ဖန်ဆင်းခံဟူသမျှတို့ရဲ့ ဖန်ဆင်းရှင် အလ္လာဟ်ဟို့အရှင်မြတ်၏ အပြောင်းအလဲမဲ့ နောက်ဆုံးထုတ်ပြန်ထားသော မဟာဗျာဒိတ်တော်ကြီးလည်း ဖြစ်ပေသည်။

အရေးပါအဆင့်မြင့်သည်နှင့်အမျှ ကဏ္ဍတိုင်းတွင် စည်းစနစ်များမည်မှာ ဓမ္မတာပင်ဖြစ်သည်။ ကုရ်အာန်ကျမ်းတော်မြတ်သည် ဖန်ဆင်းရှင် (အလ္လာဟ် အရှင်မြတ်)၏ အဆင့်မြင့် အရေးပါသော ဗျာဒိတ်တော်မြတ်ကြီးဖြစ်ပေရာ ယင်း ဗျာဒိတ်တော်မြတ်ကြီးအား ဖတ်ရွတ်သရဇ္ဈာယ်ရေးကဏ္ဍတွင်လည်း ဌာန်ကရိုဏ်းကျ စေမည့် နည်းစနစ်များရှိမည်မှာလည်း အမှန်ပင်ဖြစ်သည်။ ဤကျမ်းငယ်သည် အဆိုပါကျမ်းမြတ်အား ဖတ်ရွတ်သရဇ္ဈာယ်ရေး၌ ဌာန်ကရိုဏ်းကျစေမည့် လမ်းညွှန် ကျမ်းတစ်စောင်ဖြစ်ပေသည်။ ဤကျမ်းစာပါ ဘာသာရပ်သည် **Self Study** တစ်ကိုယ်ရည်လေ့လာ၍ တတ်မြောက်ကျွမ်းကျင်နိုင်သော ဘာသာရပ်မဟုတ်ပေ။ သို့ပါ၍ ကျွမ်းကျင်တတ်မြောက်သော ဆရာ့ထံ လေ့လာဆည်းပူးမှသာ နည်းကျ

နိုင်မည်ဖြစ်သည်။ ဤကျမ်းငယ်သည် ရင်သွေးများအတွက် အသုံးဝင်သလို ကျောင်းသူ / ကျောင်းသား ညီနောင်များ အတွက်လည်း လက်စွဲလမ်းညွှန်ဟုဆိုက မှားမည်မဟုတ်ပေ။

ရင်သွေးငယ်များနှင့် သက်ကြီး ကျောင်းသူ/ကျောင်းသား ညီနောင်များ အတွက်မှာကား ဆရာကောင်း သမားကောင်းတစ်ဦးဦးထံ ချဉ်းကပ်၍ စ,လယ်,ဆုံး ဆည်းပူးပါက إن شـــــــاء الله အကျိုးထူးမည်မှာ အမှန်ပင်ဖြစ်သည်။ သို့သော် ဤကျမ်းငယ်တွင် အသာပေးရေးသားထားသောစနစ်ကို မျက်ခြည်မပြတ်ရန် သတိရှိနေဖို့ အရေးကြီးလှပေသည်။ ယင်းစနစ်သည် စာသင်သားအား အစပြု သည်မှ အရဗီစာပေနှင့် ထိတွေ့စေပြီး အခြေခံဝေါဟာရများကို ယဉ်ပါးနားလည် စေလို၍ သဂျ်ဝီးဒ် ဘာသာရပ်လာဝေါဟာရများကို အရဗီစာပေအသုံးအနှုန်းများနှင့် အညီ သဘောပေါက် တတ်မြောက်စေလိုခြင်း ဖြစ်ပေသည်။

ဤကျမ်းငယ်တွင် သဂျ်ဝီးဒ်ဘာသာရပ်ဆိုင်ရာ အခန်းကဏ္ဍများအားလုံးကို ပြည့်စုံစွာ ဖော်ပြထားသည်ဟု မဆိုနိုင်သော်ငြားလည်း အရေးကြီးသော အခန်းကဏ္ဍ အများစုကို အကောင်းဆုံးဖြစ်အောင် တတ်နိုင်သမျှ ဖော်ပြထားသည်မှာ လေ့လာသူ ကိုယ်တိုင် မြင်တွေ့နိုင်ပါသည်။ သို့ပါ၍ သင်ကြားပို့ချပေးသော ဆရာသခင် များကသာ စနစ်တကျ ဂရုစိုက် သင်ကြားလေ့ကျင့်ပေးကြမည်ဆိုပါက ရင်သွေးငယ် များနှင့် ကျောင်းသူ/ကျောင်းသားများအဖို့ အမှန်ပင် ရင်အေးဖွယ်ရာ ဖြစ်ပေမည်။

ဤကျမ်းငယ်ဖြစ်မြောက်ရေးအတွက် အဘက်ဘက်မှ ကူညီအားပေး ကြသော မိတ်ဆွေများနှင့် အထူးသဖြင့် မွဖ်သီအို့စာမာဟ်ဆပ်အား ကျေးဇူးတင် ရှိပါသည်။

ကျမ်းပြုသူသည် လေ့လာဆည်းပူးလိုသူများအတွက် အကောင်းဆုံး

ဖြစ်အောင် စီစဉ်ရေးသားသော်ငြားလည်း လူသားတစ်ယောက်ဖြစ်နေခြင်း၏ အားနည်းမှုနှင့် ဒွန်တွဲလျက်ရှိနေသော လျော့နည်းမှု၊ လိုအပ်ချက်နှင့် မေ့မှားမှု စသည်တို့သည် နည်းများမဆို တွယ်ကပ်နေမည်မှာ ဓမ္မတာပင်ဖြစ်သည်။ အကယ်၍ မေ့မှားမှုများ တွေ့ရှိကြပါက အပြုသဘောဖြင့် ရှုမြင်လျက် ပြုပြင်ပေးကြပါရန် မေတ္တာရပ်ခံရင်းနှင့်

إن تـجـدعـيـبا فسـدّ الخـللا　　　　جـلّ مـن لاعـيـب فـيـه وعـلا

من عاب عيباله عذرفلاوزرا　　　　ينجـيـه من عـزمات اللوم متّئرا

وإنّـمـا هى أعمال بـنـيّـتـها　　　　خذماصفاواحتمل بالعفوماكدرا

والله أسأل أن يعم النفع بهذا العمل القليل طلبة هذا العلم الشريف

ويحـسـن لى الختام ويـجـعـلـه سبـبا للـفـوزالعـظـيـم مع الكرام

❖ ❖ ❖ ❖ ❖ ❖ ❖

**''ပြစ်တင်ရာရေး လွတ်မည်ဝေး''**

မှားလျှင်ပြင်တုံ၊　　　　နက်မကုန်သော်၊
ဖေါ်တော်မူကြ၊　　　　တတ်မစရှင်၊
လောကဌ်တွင်　　　　လူဟုမြင်က၊
ပြစ်တင်ရာရေး၊　　　　ထွက်မည်ဝေး၏။
မွေးမြူတော်မူ၊　　　　ဖန်ဆင်းသူသာ၊
ပြစ်တကာနှင့်၊　　　　ကင်းစွာသန့်ရှင်း၊
လွတ်လျှင်းလျှင်းတည်း။

ဆရာကြီးဦးနု (၃ ခန်းကျမ်း)

## တည်းဖြတ်သူ၏အမှာစာ

الـحـمدلله الذى افتتح بالحمد كتابه، وأجزل لمن جوّده وعمل به ثـوابـه، والـصـلاة والسلام على سيدنا محمد الذى أنزل عليه الربُّ فرفانه، وعلى آله وصحبه الذين اتبعوا رضوانه.

ကျမ်းမြတ်ကုရ်အာန်သည် ကမ္ဘာ့လူသားထုတစ်ရပ်လုံးအတွက် တရားလမ်းမှန်ပြပေးသည့် မရှိမဖြစ်လိုအပ်သော ကျမ်းမြတ်ဖြစ်ပေသည်။

ဤကျမ်းမြတ်သည် ကျရောက်စဉ်ကတည်းက ဖတ်ရွတ်ပုံနည်းစနစ်များနှင့်တကွ ကျရောက်ခဲ့ပါသည်။ သို့သော်လည်း ဝမ်းနည်းစရာအချက်မှာ မွတ်စ်လင်မ်တို့သည် အများအားဖြင့် ကျမ်းမြတ်ကုရ်အာန်ကို ဖတ်တတ်အောင် သင်ကြားကြသော်လည်း ယင်း၏သဂျ်ဝီးဒ်နည်းစနစ်များနှင့်အညီ ဌါန်ကရိုဏ်းကျစွာ ဂရုတစိုက် လေ့ကျင့်သင်ကြားပို့ချခြင်း၊ သင်ယူဆည်းပူးခြင်းမှာ အလွန်နည်းပါးလျက်ရှိသည်ကို တွေ့မြင်ရပါသည်။

ယခုစာရှုသူ၏ လက်ဝယ်၌ရှိသောစာအုပ်သည် ကျွန်တော်၏ချစ်မိတ်ဆွေ မော်လာနာ ဟာဖစ်ဇ် ကာရီ မုဖ်သီအဗ်ဒွရ်ရဟီးမ် မဇ္ဇာဟေ့ရီ ကာစေ့မီ နဒ်ဝီ၏ သာသနာ့သောက ခံစားချက်များနှင့် ကြိုးစားဆောင်ရွက်ထားသော ကြိုးပမ်းမှု တစ်ရပ်ပင်ဖြစ်သည်။ ကျွန်တော်သည် ဤစာအုပ်ကို စတင်ပြုစုရေးသားသည့် အချိန်မှစ၍ သင်ခန်းစာတိုင်း၊ စာမျက်နှာတိုင်း၊ အချက်အလက်တိုင်းကို အတတ်နိုင်ဆုံး ဂရုတစိုက်လေ့လာစိစစ်ခွင့် ရရှိခဲ့ပါသည်။ အချို့ပြည့်တ်ချက်များတွင် အချိန်များစွာအသုံးပြုခဲ့ရသည်။ အဘယ်ကြောင့်ဆိုသော် အချို့ဖတ်နည်းများသည် ကျမ်းစာအုပ်တိုင်းတွင် မရှိသဖြင့် စုံစုံလင်လင်လွယ်ကူစွာ နားလည်သဘောပေါက်စေရန်

လွယ်ကူသောပုံစံလေးဖြင့် ပြုစုခဲ့ပါသည်။

ပြည်ထောင်စု မြန်မာနိုင်ငံတော်သား ကျောင်းသား / ကျောင်းသူများ အနေနှင့် ဆက်လက်၍ ကျမ်းကြီးများကို လေ့လာဆည်းပူးသောအခါ အထောက် အကူဖြစ်စေရန် မူရင်းအရဗီအသုံးအနှုန်းများကို သုံးစွဲထားပါသည်။ ဤသည်မှာ ဤကျမ်းငယ်၏ ထူးခြားချက်ပင် ဖြစ်ပါသည်။

ကျမ်းမြတ်ကုရ်အာန်အား သင်ကြားပို့ချပေးသော အခြေခံစာသင် ကျောင်းများ၊ သီးသန့်စာသင်ဌာနများ၊ ဟာဖစ်ဇ်ဖွဲ့အာဂုံဆောင်သင်တန်းကျောင်းများ၊ အာလင်မ် သင်တန်းကျောင်းများ၌ ဤကျမ်းငယ်ကို သင်ရိုးအဖြစ်သတ်မှတ်ကာ စနစ်တကျ လေ့ကျင့်သင်ကြားပို့ချရန် နှိုးဆော်အပ်ပါသည်။

သို့သော် အခြေခံကျောင်းများ၌မူကား ဤကျမ်းငယ်ကို အစမှ باب ألقاب الحروف (အက္ခရာဂုဏ်ရည်အမည်များ အခန်းအဆုံးထိ) လည်းကောင်း၊ တစ်ဖန် باب أحكام النون والميم المشدّدتين အခန်းမှ 'فصل" أوجه الوقف على أواخرالكلم' အခန်းထိ လည်းကောင်းကိုသာ စနစ်တကျ လေ့ကျင့်သင်ကြားပေးရန် ပန်ကြားအပ်ပါသည်။

အာလင်မ်သင်တန်းကျောင်းသား / ကျောင်းသူများအတွက်ကား ကျမ်းငယ် တစ်အုပ်လုံးရှိ သင်ခန်းစာများကို အစဉ်လိုက်လေ့ကျင့်သင်ကြားပေးရန် ဖြစ်ပါသည်။

ဤပညာရပ်သည် တစ်ကိုယ်ရည်လေ့လာဆည်းပူးရုံမျှဖြင့် ကျွမ်းကျင်တတ် မြောက်နိုင်သောပညာရပ် အလျဉ်းမဟုတ်သဖြင့် ဤကျမ်းငယ်ကို လေ့လာဆည်းပူး သင်ယူသူများသည် ဤပညာရပ်ဆိုင်ရာ ကျွမ်းကျင်တတ်မြောက်သော ပညာရှင် များထံ ချဉ်းကပ်၍ ၎င်းပုဂ္ဂိုလ်တို့၏အသံထုတ်ပုံများ၊ ဖတ်ပုံဖတ်နည်း စသည်များ ကိုပါ ဂရုတစိုက် လေ့ကျင့်သင်ယူရန် အရေးကြီးပေသည်။ ဤကျမ်းကို တာဝန်ယူ သင်ကြားပို့ချသော ဆရာများအား ပန်ကြားလိုသည်မှာ သင်ခန်းစာတိုင်းကို ၎င်း၏

ဖတ်နည်း ဥပဒေများနှင့်အညီ ကြိုတင်လေ့လာအသင့်ပြင်၍ မိမိတပည့်များကို ကိုယ်တိုင် လက်တွေ့ပြကာ ၎င်းတို့ နားလည်သဘောက်ပေါက်သည်အထိ စိတ်ရှည်စွာ လေ့ကျင့်သင်ကြားပေးပါ။ ထို့ပြင် ကျမ်းလာဥပမာများအပေါ်၌သာ တင်းတိမ်မှုမပြုဘဲ ကျမ်းမြတ်ကုရ်အာန်မှ အဆိုပါ သင်ခန်းစာဆိုင်ရာ အခြားသော ဥပမာများကို ဝေဆာစွာဖြင့် သင်ကြားပေးပါက အင်ရှာအလ္လာဟ် ကျောင်းသား / ကျောင်းသူများသည် အချိန်တိုတိုနှင့် ကောင်းမွန်စွာနားလည်ပြီး ကျမ်းမြတ်ကုရ်အာန်ကို စနစ်တကျ ရွတ်ဖတ်နိုင်ကြပေလိမ့်မည်။

အလ္လာဟ်အရှင်မြတ်သည် ဤကျမ်းငယ်ကို လက်ခံသဘောတူတော်မူပြီး၊ ၎င်းဖြင့် အွမ္မသ်သူ / သားများအား အကျိုးဖြစ်ထွန်းစေတော်မူပါစေ။

မို့ဟမ္မဒ်အို့စာမဟ်ဂျီဝါး
၁၉/၆/၁၄၂၃ ဟစ်ဂျ်ရီ
၂၈/၈/၂၀၀၂
ဂျာမေ့အသွလ်ကောင်ဆရစ်လ်အစ္စလာမီယဟ်
မြစ်ငယ်မြို့၊ မန္တလေးတိုင်း။

❖ ❖ ❖ ❖ ❖ ❖ ❖

## သင်ရိုးလမ်းညွှန်

(၁) သဂျ်ဝီးဒ် စတင်သင်ကြား၍ရနိုင်သော ကလေးသူငယ်များကို စာမျက်နှာ(၂၉) مراتب التجويد فى القراءة ثلاثة မှ စာမျက်နှာ (၅၀) باب القلقلة အဆုံးအထိ သင်ကြားပို့ချပေးရမည်။

(၂) နံပါတ်(၁)အဆင့်ပြီးသော ကလေးသူငယ်များကို باب صفات الحروف မှအစ ကျန်အခန်းအားလုံး ပြီးဆုံးသည်အထိ သင်ကြားပို့ချပေးရမည်။

(၃) မြန်မာစာ ရေးတတ်၊ ဖတ်တတ်သော ကလေးသူငယ်များ၊ သက်ကြီး သင်တန်းသူ/သင်တန်းသားများနှင့် အာလင်မ်သင်တန်းကျောင်းသားများကို အစ၊ အလယ်၊ အဆုံး ပြီးဆုံးသည်အထိ စနစ်တကျ လေ့ကျင့်ပြီး သင်ကြားပို့ချပေးရမည်။

ပုံ/ ကျမ်းပြုသူ

١٥ / رمضان /١٤٣٨هـ
١٢ / ٦ / ٢٠١٧ م

# محتويات الكتاب ( မာတိကာ )

بسم الله الرحمن الرحيم

# اَلْمُصْطَلَحَاتُ الأَسَاسِيَّةُ لِلرُّمُوْزِ الْعَرَبِيَّةِ

## အရဗီသရများဆိုင်ရာ အခြေခံဝေါဟာရများ

ـُـ ـٌـ ـٍـ ـٛـ ـٚـ ဤအပြောက်အစက်ငယ် တစ်ခုတိုင်းကို نُقْطَةٌ ဟုခေါ်ပါသည်။

ـَـ ـِـ ـُـ ဤအပေါ်နှင့် အောက်တွင်ရှိသော သင်္ကေတများအနက် တစ်ခုတိုင်းကို حَرَكَةٌ ဟုခေါ်ဆိုပါသည်။

حَرَكَةٌ ပါသောအက္ခရာကို مُتَحَرِّكَةٌ ဟုခေါ်ဆိုပါသည်။

ဥပမာ - نَ ကို نُوْنٌ مُتَحَرِّكَةٌ ဟုခေါ်ပါသည်။

ဤသင်္ကေတ ـَـ ကို فَتْحَةٌ ဟုခေါ်ပါသည်။

ဤသင်္ကေတ ـِـ ကို كَسْرَةٌ ဟုခေါ်ပါသည်။

ဤသင်္ကေတ ـُـ ကို ضَمَّةٌ ဟုခေါ်ပါသည်။

ဤသင်္ကေတ ـْـ ကို جَزْمٌ (သို့မဟုတ်) سُكُوْنٌ ဟုခေါ်ပါသည်။

ဤသင်္ကေတ ـّـ ကို تَشْدِيْدٌ (သို့) شَدَّةٌ ဟုခေါ်ပါသည်။

ـَـ فَتْحَةٌ ပါသောအက္ခရာကို مَفْتُوْحَةٌ ဟုခေါ်ပါသည်။

ဥပမာ - بَ ကို بَاءٌ مَفْتُوْحَةٌ ဟုခေါ်ပါသည်။

ـِـ كَسْرَةٌ ပါသောအက္ခရာကို مَكْسُوْرَةٌ ဟုခေါ်ပါသည်။

ဥပမာ - تِ ကို تَاءٌ مَكْسُوْرَةٌ ဟုခေါ်ပါသည်။

ـُـ ضَمَّةٌ ပါသော အက္ခရာကို مَضْمُوْمَةٌ ဟုခေါ်ပါသည်။

ဥပမာ - ثُ ကို ثَاءٌ مَضْمُوْمَةٌ ဟုခေါ်ပါသည်။

ـْـ جَزْمٌ / سُكُوْنٌ ပါသောအက္ခရာကို سَاكِنَةٌ ဟုခေါ်ပါသည်။

ဥပမာ - جْ ကို جِيْمٌ سَاكِنَةٌ ဟုခေါ်ပါသည်။

ـــّـــ تَشْدِيْدٌ ပါသောအက္ခရာကို مُشَدَّدَةٌ ဟုခေါ်ပါသည်။

ဥပမာ - حّ ကို حَاءٌ مُشَدَّدَةٌ ဟုခေါ်ပါသည်။

ــًــٍــٌـ ဤအပေါ်နှင့်အောက်တွင်ပါရှိသော သင်္ကေတများအနက်မှ တစ်ခုတိုင်းကို تَنْوِيْنٌ ဟုခေါ်ပါသည်။

تَنْوِيْنٌ ပါသောအက္ခရာကို مُنَوَّنَةٌ ဟုခေါ်ပါသည်။

ဥပမာ - تٌ ကို تَاءٌ مُنَوَّنَةٌ ဟုခေါ်ပါသည်။

ဤသင်္ကေတ ــًــ ကို فَتْحَتَان ဟုခေါ်ပါသည်။

ဤသင်္ကေတ ــٍــ ကို كَسْرَتَان ဟုခေါ်ပါသည်။

ဤသင်္ကေတ ــٌــ ကို ضَمَّتَان ဟုခေါ်ပါသည်။

ဤသင်္ကေတ ــٰــ ကို اَلِفٌ مَقْصُوْرَةٌ ဟုခေါ်ပါသည်။ ➤

ဤသင်္ကေတ ــٖــ ကို صِلَةُ الْكَسْرَةِ بِالْيَاءِ ဟုခေါ်ပါသည်။ ➤

ဤသင်္ကေတ ــٗــ ကို صِلَةُ الضَّمَّةِ بِالْوَاوِ ဟုခေါ်ပါသည်။ ➤

ဤ(➤)သင်္ကေတဖြင့် ညွှန်ပြထားသော သရတို့သည် مِنْ قَبِيْلِ الْمَدِّ الطَّبِيعِيِّ ''မဒ်ဒွန်သွဗီအီယွန်''၏ အမျိုးထဲမှ ဖြစ်ကြသည်။

١ ــٰــ اَلِفٌ مَقْصُوْرَةٌ ၏ဥပမာ مُوْسٰى هٰذَا

٢ ــٖــ صِلَةُ الْكَسْرَةِ بِالْيَاءِ ၏ဥပمာ بِهٖ بِهِ

٣ ــٗــ صِلَةُ الضَّمَّةِ بِالْوَاوِ ၏ဥပမာ رَبُّهٗ رَبُّهُ

ဖော်ပြပါသင်္ကေတ(၃)မျိုးတို့သည် مَدٌّ طَبِيْعِىٌّ ၏အမျိုးအစားထဲ၌ ပါဝင်နေသည့် အတွက် حَرَكَةٌ ( ၂ ) ခုဆွဲ၍ ဖတ်ရမည်။ ဥပမာ - အ မှ အာ အသံမျိုး၊ အိ မှ အီ အသံမျိုး၊ အု မှ အူ အသံမျိုး ဆွဲဖတ်ပုံခန့်ကို ဆိုလိုပါသည်။

# الشرعة القرآنية لتهجّى الحروف العربية الهجائية

## ကုရ်အာန်နည်းကျ အရဗီဗျည်းအက္ခရာများ ဖတ်နည်း

| الرقم | هَيْئَاتُ الْحُرُوْفِ الْعَرَبِيَّةِ الْهِجَائِيَّةِ<br>အရဗီဗျည်းအက္ခရာ ရုပ်သဏ္ဍာန်များ | أَسْمَاءُ الْحُرُوْفِ الْعَرَبِيَّةِ الْهِجَائِيَّةِ بِدُوْنِ أَلْ<br>အလ်မပါသော အရဗီဗျည်းအက္ခရာ အမည်များ | أَسْمَاءُ الْحُرُوْفِ الْعَرَبِيَّةِ الْهِجَائِيَّةِ بِأَلْ<br>အလ်ထည့်ခေါ်ပုံ အရဗီဗျည်းအက္ခရာ အမည်များ | اِسْتِخْدَامُ الْحُرُوْفِ فِيْ تَهَجِّي الْحُرُوْفِ الْعَرَبِيَّةِ الْهِجَائِيَّةِ<br>ဗျည်းဖတ်ရာတွင် အက္ခရာ အရေအတွက် အသုံးပြုပုံ | اَلتَّهَجِّى الصَّحِيْحُ لِلْحُرُوْفِ الْعَرَبِيَّةِ الْهِجَائِيَّةِ<br>အရဗီဗျည်းအက္ခရာများအား မှန်ကန်သောဗျည်းဖတ်ပုံ |
|---|---|---|---|---|---|
| ١ | ا | أَلِفٌ | اَلْأَلِفُ | حرف هجاؤه على ثلاثة أحرف | أَلِفْ |
| ٢ | ء | هَمْزَةٌ | اَلْهَمْزَةُ | حرف هجاؤه على ثلاثة أحرف | هَمْزْ |
| ٣ | ب | بَاءٌ | اَلْبَاءُ | حرف هجاؤه على حرفين | بَا |
| ٤ | ت | تَاءٌ | اَلتَّاءُ | حرف هجاؤه على حرفين | تَا |
| ٥ | ث | ثَاءٌ | اَلثَّاءُ | حرف هجاؤه على حرفين | ثَا |
| ٦ | ج | جِيْمٌ | اَلْجِيْمُ | حرف هجاؤه على ثلاثة أحرف | جِيْمْ |
| ٧ | ح | حَاءٌ | اَلْحَاءُ | حرف هجاؤه على حرفين | حَا |
| ٨ | خ | خَاءٌ | اَلْخَاءُ | حرف هجاؤه على حرفين | خَا |
| ٩ | د | دَالٌ | اَلدَّالُ | حرف هجاؤه على ثلاثة أحرف | دَالْ |
| ١٠ | ذ | ذَالٌ | اَلذَّالُ | حرف هجاؤه على ثلاثة أحرف | ذَالْ |
| ١١ | ر | رَاءٌ | اَلرَّاءُ | حرف هجاؤه على حرفين | رَا |

| | | | | | |
|---|---|---|---|---|---|
| ١٢ | ز | زَایٌ | اَلزَّایُ | حرف هجاؤه على حرفين | زَا |
| ١٣ | س | سِيْنٌ | اَلسِّيْنُ | حرف هجاؤه على ثلاثة أحرف | سِيْنْ |
| ١٤ | ش | شِيْنٌ | اَلشِّيْنُ | حرف هجاؤه على ثلاثة أحرف | شِيْنْ |
| ١٥ | ص | صَادٌ | اَلصَّادُ | حرف هجاؤه على ثلاثة أحرف | صَادْ |
| ١٦ | ض | ضَادٌ | اَلضَّادُ | حرف هجاؤه على ثلاثة أحرف | ضَادْ |
| ١٧ | ط | طَاءٌ | اَلطَّاءُ | حرف هجاؤه على حرفين | طَا |
| ١٨ | ظ | ظَاءٌ | اَلظَّاءُ | حرف هجاؤه على حرفين | ظَا |
| ١٩ | ع | عَيْنٌ | اَلْعَيْنُ | حرف هجاؤه على ثلاثة أحرف | عَيْنْ |
| ٢٠ | غ | غَيْنٌ | اَلْغَيْنُ | حرف هجاؤه على ثلاثة أحرف | غَيْنْ |
| ٢١ | ف | فَاءٌ | اَلْفَاءُ | حرف هجاؤه على حرفين | فَا |
| ٢٢ | ق | قَافٌ | اَلْقَافُ | حرف هجاؤه على ثلاثة أحرف | قَافْ |
| ٢٣ | ك | كَافٌ | اَلْكَافُ | حرف هجاؤه على ثلاثة أحرف | كَافْ |
| ٢٤ | ل | لاَمٌ | اَللاَّمُ | حرف هجاؤه على ثلاثة أحرف | لاَمْ |
| ٢٥ | م | مِيْمٌ | اَلْمِيْمُ | حرف هجاؤه على ثلاثة أحرف | مِيْمْ |
| ٢٦ | ن | نُوْنٌ | اَلنُّوْنُ | حرف هجاؤه على ثلاثة أحرف | نُوْنْ |
| ٢٧ | و | وَاوٌ | اَلْوَاوُ | حرف هجاؤه على حرفين | وَا |
| ٢٨ | هـ | هَاءٌ | اَلْهَاءُ | حرف هجاؤه على حرفين | هَا |
| ٢٩ | ی | يَاءٌ | اَلْيَاءُ | حرف هجاؤه على حرفين | يَا |

# အရဗီဗျည်းအက္ခရာများတွင် မြန်မာအသံတူ ရှိ / မရှိ ခွဲပြဇယား

| | | | |
|---|---|---|---|
| تَ<br>သ | بَ<br>ဘ | ءَ<br>အ | ا<br>ရေးချ၏အသံ ''–ာ'' |
| خَ<br>၂ | حَ<br>၁ | جَ<br>ဂျ | ثَ<br>မရှိ |
| زَ<br>ဇ | رَ<br>၃ | ذَ<br>မရှိ | دَ<br>မရှိ |
| ضَ<br>မရှိ | صَ<br>၄ | شَ<br>ရှ | سَ<br>စ |
| غَ<br>၈ | عَ<br>၇ | ظَ<br>၆ | طَ<br>၅ |
| لَ<br>လ | كَ<br>က | قَ<br>မရှိ | فَ<br>မရှိ |
| هَـ<br>ဟ | وَ<br>ဝ | نَ<br>န | مَ<br>မ |

| |
|---|
| یَ<br>ယ |

## သိဖွယ်မှတ်လွယ်

(၁) အလစ်ဖ်သည် ရေးချ၏အသံဖြင့် ဆွဲသံပေးသောအက္ခရာ ဖြစ်သည်။

(၂) အချို့သောအရဗီဗျည်းအက္ခရာများအတွက် မြန်မာအသံတူ ရှိနေသည့်အတွက်ကြောင့် ထိုအက္ခရာတို့၏အောက်တွင် တပါတည်းအသံတူကို ဖော်ပြထားပါသည်။

(၃) အချို့သောအရဗီဗျည်းအက္ခရာများအတွက် မြန်မာအသံတူ မရှိသောကြောင့် ယင်းအက္ခရာများ၏အောက်တွင် ''မရှိ''ဟု ဖော်ပြထားပါသည်။

(၄) နံပါတ်စဉ်ပေးထားသော အရဗီဗျည်းအက္ခရာများအတွက် မြန်မာအသံနှင့် နီးစပ်သောအသံရှိသောကြောင့် ခွဲခြားသိရှိနိုင်ရန် နံပါတ်စဉ်ပေးထား ခြင်းဖြစ်သည်။

### မြန်မာအသံနှင့် နီးစပ်သောအသံရှိသည့်အက္ခရာများအတွက် ရှင်းလင်းချက်

၁/ حَ အက္ခရာ၏အသံသည် မြန်မာအသံ ''ဟ''နှင့် နီးစပ်သည်။ သို့သော် ယင်း ''ဟ''ကို လည်ချောင်း၏အလယ်မှ ထုတ်၍ဖတ်မှသာ အသံအမှန် ဖြစ်မည်။

၂/ خَ အက္ခရာ၏အသံသည် မြန်မာအသံ ''ခ''နှင့်နီးစပ်သည်။ သို့သော် ထို ''ခ'' ကို ပါးစပ်နှင့်အနီးဆုံး လည်ချောင်း၏အစမှ ထည်ဝါစွာဖတ်မှသာ အသံအမှန် ဖြစ်မည်။

၃/ رَ အက္ခရာ၏အသံသည် မြန်မာအသံ ''ရ'' ၏လျှာလိပ်သံနှင့် နီးစပ်သည်။ သို့သော် ထို ''ရ''၏လျှာလိပ်သံကို ထည်ဝါမည့်အခါ ထည်ဝါသလို မထည်ဝါမည့်အခါ မထည်ဝါသလိုဖတ်မှသာ အသံအမှန်ဖြစ်မည်။

၄/ صَ အက္ခရာ၏အသံသည် မြန်မာအသံ ''ဆွ''နှင့်နီးစပ်သည်။ သို့သော် ထို''ဆွ''

ကို ထည့်ဝါစွာဖတ်မှသာ အသံအမှန်ဖြစ်မည်။

၅/ طَ အက္ခရာ၏အသံသည် မြန်မာအသံ ''သွ''နှင့်နီးစပ်သည်။ သို့သော် ထို ''သွ''ကို ထည့်ဝါစွာဖတ်မှသာ အသံအမှန်ဖြစ်မည်။

၆/ ظَ အက္ခရာ၏အသံသည် မြန်မာအသံ ''ဇွ''နှင့်နီးစပ်သည်။ သို့သော် လျှာအဖျားကို အပေါ်ရှေ့သွားကြီးနှစ်ချောင်း၏ အဖျားများဖြင့် ထိလျက် ထည့်ဝါစွာဖတ်မှသာ အသံအမှန်ဖြစ်မည်။

၇/ عَ အက္ခရာ၏အသံသည် မြန်မာအသံ ''အ''နှင့်နီးစပ်သည်။ သို့သော် ထို ''အ''ကို လည်ချောင်း၏အလယ်မှ ထုတ်၍ဖတ်မှသာ အသံအမှန်ဖြစ်မည်။

၈/ غَ အက္ခရာ၏အသံသည် မြန်မာအသံ ''ဂ''နှင့်နီးစပ်သည်။ သို့သော် ထို ''ဂ''ကို ပါးစပ်နှင့်အနီးဆုံး လည်ချောင်း၏အစမှ ထည့်ဝါစွာထုတ်၍ ဖတ်မှသာ အသံအမှန်ဖြစ်မည်။

မှတ်ချက်။ ။ မြန်မာအသံတူမရှိသော အက္ခရာများအတွက် အရဗီမူရင်း အသံအမှန် အတိအကျဖြင့် အကောင်အထည်ဖော်နိုင်ရန် ယင်းအက္ခရာများ အတွက် သတ်မှတ်ထားသော **مخارج** အသံထွက်သည့်နေရာများမှ စနစ်တကျ ဆရာ၏ သင်ကြားလမ်းညွှန်မှုအတိုင်း လေ့ကျင့်ရမည်။ သို့မှသာ အသံအမှန်ဖြင့် ဖတ်နိုင်မည်ဖြစ်သည်။

## အရဗီဗျည်းနှင့်သရတို့ တွဲသည့်အခါ အသံထွက်အမှန်ပြဇယား

| فَتْحَةٌ | ـَ | ءَ | အ | بَ | ဘ | تَ | သ |
|---|---|---|---|---|---|---|---|
| كَسْرَةٌ | ـِ | ءِ | အေ့ | بِ | ဘေ့ | تِ | သေ့ |
| ضَمَّةٌ | ـُ | ءُ | အို့ | بُ | ဘို့ | تُ | သို့ |
| فَتْحَتَانِ | ـً | ءً | အံန် | بً | ဘံန် | تً | သံန် |
| كَسْرَتَانِ | ـٍ | ءٍ | အင်န် | بٍ | ဘင်န် | تٍ | သင်န် |
| ضَمَّتَانِ | ـٌ | ءٌ | အွန်န် | بٌ | ဘွန်န် | تٌ | သွန်န် |
| جَزْمٌ / سُكُوْنٌ | ـْ | أَكْ | အတ်က် | بَكْ | ဘတ်က် | تَكْ | သတ်က် |
| تَشْدِيْدٌ / شَدَّةٌ | ـّ | تَبَّ | သဗ္ဗ | بَكَّ | ဘက္က | بَلَّ | ဘလ္လ |
| أَلِفٌ مَقْصُوْرَةٌ | ـٰ | هٰـ | ဟာ | بٰ | ဗာ | تٰ | သာ |
| صِلَةُ الْكَسْرِ بِالْيَاءِ | ـٖ | بِهٖ | ဗေ့ဟီ | | | | |
| صِلَةُ الضَّمَّةِ بِالْوَاوِ | ـٗ | رَبُّهٗ | ရဗ္ဗို့ဟူ | | | | |

| حُرُوْفُ الْمَدَّةِ | (ـာ) ـَـ ا | بَا | (ـူ) ـُـ وْ | بُوْ | (ီ) ـِـ يْ | بِيْ |
|---|---|---|---|---|---|---|
| ဆွဲသံပေးအက္ခရာများ | ရေးချသံ | ဘာ | နှစ်ချောင်းငင်သံ | ဘူ | လုံးကြီးတင်ဆန်ခတ်သံ | ဘီ |

| ءُ | بُ | تُ | ءِ | بِ | تِ |
|---|---|---|---|---|---|
| အု | ဘု | သု | အိ | ဘိ | သိ |

ဟု အသံထွက်ဖော်ပြခြင်းတို့သည် မှားယွင်း၏။ အကြောင်းမှာကား ယင်းအသံတို့သည် အရဗီအသံများ မဟုတ်သည့်အတွက် အရဗ်ကာရီများက ယင်းအသံတို့ဖြင့် ဖတ်ရွတ်ခြင်း မရှိသည့်အတွက် ကြောင့်ပင်ဖြစ်သည်။

# التمهيد فى مبادئ علم التجويد

**သဂျ်ဝီးဒ်ပညာအတွက် သိသင့်သိအပ်သော အခြေခံသဘောတရားများဆိုင်ရာနိဒါန်း**

(١) الا سم ဤပညာရပ်၏ အမည်နာမမှာ -عِلْمُ التَّجْوِيْدِ ဟူ၍ ဖြစ်ပါသည်။

(٢) الحدّ :ဖွင့်ဆိုချက် التجويدفى اللغة -အရဗီစကား၌ သဂျ်ဝီးဒ်၏ဓိပ္ပါယ်မှာ

تحسينُ الشئِ وإحكامُه وإتقانُه အရာဝတ္ထုတစ်ခုကို လှပတင့်တယ်ပီပြင်

ခိုင်ခန့်အောင် ပြုလုပ်ခြင်းကို ခေါ်ဆိုပါသည်။

التجويدفى الاصطلاح ပညာရပ်ဆိုင်ရာဝေါဟာရမှာ - إعطاء الحروف

حقّهامن الصفات اللازمة ، ومستحقّها من الصفات العارضة التى تعرض

للحروف بحسب التر كيب.

အက္ခရာများနှင့် ထာဝရခွန်တွဲလျက်ရှိသော ဝိသေသများ၏ ဝတ္တရားများအား အကောင်အထည်ဖော်ခြင်းနှင့် အက္ခရာများတွင် ပေါင်းစပ်မှုကြောင့် ပေါ်ပေါက်လာသော ယာယီဝိသေသများ၏ဝတ္တရားများအား အကောင်အထည်ဖော်ခြင်းတို့ ဖြစ်ပါသည်။

(٣) الموضوع : သဂျ်ဝီးဒ်ပညာက အဓိကလေ့လာတင်ပြမည့်အချက်မှာ -

ألفاظ القرآن الكريم ကုရ်အာန်ကျမ်းတော်မြတ်၏စကားလုံးများသာ ဖြစ်ပါသည်။

(٤) الثمرة :သဂျ်ဝီးဒ်ပညာ၏ ရလဒ်အကျိုးတရားမှာ-

صون اللسان عن الخطأفى كتاب اللّٰه تعالٰى အလ္လာဟ်အရှင်မြတ်၏ နှုတ်ကပါဌ်တော် ကုရ်အာန်ကျမ်းတော်မြတ်ကို ဖတ်ရွတ်သရဇ္ဈာယ်ရာတွင် ဌာန်ကရိုဏ်းမကျဘဲ မှားယွင်းမှုမှ နှုတ်လျှာကို ထိန်းသိမ်းပေးလေသည်။

(٥) فضله : သဂျ်ဝီးဒ်ပညာ၏ ထွတ်မြတ်မှုမှာ-

أنّه من أشرف العلوم لتعلقه بأشرف كلام အမွန်မြတ်ဆုံး နှုတ်ကပါဌ်တော်နှင့် ပါတ်သက်နေသည့်အတွက် အခြားသောပညာရပ်များထက် အထွတ်အမြတ်ဆုံး ပညာရပ်ဖြစ်ပါသည်။

(٦) نسبتــه : မည်သည့်ပညာရပ်များနှင့်သဂျ်ဝီးဒ်ပညာသည် ဆက်နွယ်နေသည်ကို သိအပ်ပေသည်။ أنّــه أحــد عـلـوم الـقرآن الكريم သဂျ်ဝီးဒ် ပညာသည် ကုရ်အာန်ကျမ်းတော်မြတ်နှင့် ဆက်နွယ်နေသော ပညာရပ်များအနက်မှ တစ်မျိုးဖြစ်ပါသည်။

(٧) واضـعه : သဂျ်ဝီးဒ်ပညာကို စတင်မျိုးစေ့ချခဲ့သူများမှာ - أئـمة القراءات (الـقرّاء الكرام) رحـمهم الله تعالى ''ကေရာအသ်''များ၏ အေမာမ်ကြီး များဖြစ်ကြပါသည်။

(٨) اِستــمــداده : သဂျ်ဝီးဒ်ပညာ၏ (မှီငြမ်းကိုးကားရာ၌) အကူအညီရယူမှုမှာ- مِن كيفيه قراءة النبى ﷺ ، وقراءة أصحابه ، وقراءة الأئمة من بعد هم. တမန်တော်မြတ်(ﷺ)၏ ဖတ်ရွတ်ပုံမှ၊ ဆွဟာဗာများ၏ဖတ်ရွတ်ပုံတို့နှင့် ၎င်းတို့နောက်တွင် ပေါ်ထွန်းခဲ့သော သဂျ်ဝီးဒ်ပညာရှင် အေမာမ်ကြီးတို့၏ ဖတ်ရွတ်ပုံများမှ ဖြစ်ပါသည်။

(٩) حكم الشارع فيه : သဂျ်ဝီးဒ်ပညာရပ်ဆိုင်ရာ အစ္စလာမ့်တရားတော်လာအမိန့်မှာ-

أنـه فرض عيـن على كل مكلّف قارئ. أى: أن تطبيـق أحكام التجويد حال القراءة فرض عين لتوقف صحة القراءة على ذلك.

ကုရ်အာန်ဖတ်နေသော အရွယ်ရောက်သည့်ပုဂ္ဂိုလ်တိုင်းအပေါ် ''ဖရ်ဿို့ အိုင်း'' မလုပ်မနေရ တာဝန်ဖြစ်သည်။ အလိုက ကုရ်အာန်ကျမ်းမြတ်အား သရဇ္ဈာယ် နေသည့်အခါဝယ် သဂျ်ဝီးဒ်၏ဥပဒေများကို လက်တွေ့အကောင် အထည်ဖော်လျက် ဖတ်ခြင်းသည် فــرض عين ဖြစ်သည်။ အကြောင်းမှာကား ဖတ်ရွတ်သရဇ္ဈာယ်ခြင်း မှန်ကန်တိကျ ဌာန်ကရိုဏ်းကျမှုသည် အဆိုပါ ဥပဒေများကို လက်တွေ့အကောင် အထည်ဖော်မှုအပေါ် မူတည်နေသည့်အတွက်ကြောင့် ဖြစ်ပါသည်။

أمامعرفة مسائل وأحكام التجويد فهومن باب تسهيل القراءة وهوفرض كفاية.

သို့သော် မဖတ်မီကြိုတင်ပြီး သဂျ်ဝီးဒ်ပညာ၏ပညတ်ချက်များနှင့်ဥပဒေများကို သိရှိနားလည်ထားရန်မှာ ဖတ်ရွတ်သရဇ္ဈာယ်ရာ၌ လွယ်ကူစေလိုသော အခန်းကဏ္ဍသာ ဖြစ်ပါသည်။ သို့ပါ၍ အဆိုပါကဏ္ဍနှင့်ပါတ်သက်ပြီးအစ္စလာမ့် တရားတော်လာအမိန့်မှာ فرض كفاية (ခ) မိမိကိုယ်တိုင်မဆည်းပူးမီ မိမိ အရပ်ဒေသတွင် အချို့ကဆည်းပူးထားခြင်းဖြင့် တာဝန်ကျသော အမိန့်သာ ဖြစ်ပါသည်။

(١٠) مسائل علم التجويد : သဂျ်ဝီးဒ်ပညာ၏ مسائل ဟူသည်မှာ-

هى القضايا الكلّية التى تعرف بها الجزئيات အသေးစိတ် နည်းဥပဒေ များကို သိရှိနားလည်စေနိုင်သော အခြေခံဥပဒေများကို ခေါ်ဆိုပါသည်။

مثل قولهم :كل نون مشدّدة وميم مشدّدة حكمهما الغنة ، وكلّ حرف مدّ وقع بعده همز أو سكون يجب زيادة مقدارمدّه عن الحدّ الطبيعى.

ဥပမာ - ''နူးန်ွမုရှဒ္ဒဒသွန်''တိုင်းနှင့်''မီးမွ်မုရှဒ္ဒဒသွန်''တိုင်း၏ ပညတ်ချက်မှာ - الغنة (ခ)နှာတံရင်းမှအသံဖြင့် ညည်း၍ဖတ်ခြင်း ဖြစ်သည်။

حرف مدّ တိုင်း၏နောက်တွင် ء (همزة) (သို့) ـْـ (سكون) ကျရောက် ခဲ့ပါက حرف مدّ ၏ မူလဗီဇအတိုင်းအတာထက် သာပိုပြီးဆွဲ၍ ဖတ်ရန်မှာ **ဝါဂျစ်ဗ်** တာဝန်ဖြစ်ပါသည်။



# بَابُ حُكْمِ عِلْمِ التَجْوِيْدِ وَأَهَمِّـيَّـتِهِ

## "သဂ်ျဝီးဒ်ပညာ၏ပညတ်ချက်နှင့် အရေးကြီးပုံအကြောင်း"

သဂ်ျဝီးဒ်ပညာရပ်တွင် ပညတ်ချက်နှစ်မျိုးရှိသည်။

(၁) عِلْمِيٌّ - ပညာတတ်မြောက်ရေး

(၂) عَمَلِيٌّ - လက်တွေ့အကောင်အထည် ဖော်နိုင်ရေး

(၁) ပညာတတ်မြောက်ရေးကဏ္ဍတွင် မွတ်စလင်မ်တို့ဆောင်ရွက်ရန် တာဝန်မှာ ''မွတ်စ်သဟာဗ်''ဖြစ်သည်။ ထို့အပြင် သာသနာ့ပညာရှင်တို့ဆောင်ရွက်ရန်တာဝန်မှာ **(واجبة عـــلــى الـــكـــفـــاية)** (ခေါ်) ကျွမ်းကျင်သော သဂ်ျဝီးဒ်ပညာရှင်များ၏ အသင်းအဖွဲ့တစ်ခု အွမ္မသ်အတွင်းဝယ် မလွဲမသွေရှိနေရန် အရေးကြီးပေသည်။ ထိုသို့အသင်းအဖွဲ့တစ်ခုမျှ မရှိခဲ့ပါမူ အွမ္မသ်ထုတစ်ရပ်လုံး တာဝန်မကင်းသည့်အတွက် အကုသိုလ်ကျူးလွန်သူများ ဖြစ်ကြပေလိမ့်မည်။

ပညာတတ်မြောက်ရေးကဏ္ဍဟူသည်မှာ အဆိုပါပညာရပ်၏ အခန်းကဏ္ဍအားလုံးကို အသေးစိတ် အကျယ်တဝင့် နားလည်သဘောက်ပေါက်သည့် တတ်မြောက်မှုမျိုးကို ဆိုလိုပါသည်။

(၂) လက်တွေ့အကောင်အထည်ဖော်နိုင်ရေးဟူသည်မှာ ကုရ်အာန်ကျမ်းမြတ်ဖတ်ရွတ်ရာတွင် **تجويد** ဥပဒေများနှင့်အညီ ဖတ်ရွတ်နိုင်ခြင်းကို ဆိုလိုပါသည်။ ဤတာဝန်သည် ကုရ်အာန်ဖတ်ရွတ်မည့် အရွယ်ရောက်ပြီးသော မွတ်စ်စလင်မ် (အမျိုးသား၊ အမျိုးသမီး)တိုင်းအပေါ် ''ဖရ်သို့အိုင်းန်'' (ခေါ်) မလွဲမသွေရှိနေရမည့်အရည်အချင်းပင်ဖြစ်သည်။

အစ္စလာမ်သာသနာတော်၌ သဂ်ျဝီးဒ်ပညာရပ်၏ အရေးကြီးပုံကို ရှရီအသ်တရားတော်လာ အမိန့်ပညတ်ချက်များအရ ဤသို့သိရှိရပေသည်။

**(၁) ကုရ်အာန်ကျမ်းတော်မြတ်လာ အထောက်အထားများ။**

ကုရ်အာန်ကျမ်းမြတ်တွင် အလ္လာဟ်အရှင်မြတ်က ဤသို့မိန့်တော်မူထားပေသည်။ (وَرَتِّلِ الْقُرْآنَ تَرْتِيْلاً) အသင်ကုရ်အာန်ကျမ်းတော်မြတ်ကို ''သရ်သီးလ်'' နှင့်ဖတ်ကုန်။ ترتيل ဟူသည်မှာ အက္ခရာအား ဌာန်ကရိုဏ်းကျကျဖတ်ခြင်း နှင့် စာလုံးများကို ပီပီသသ ရှင်းရှင်းလင်းလင်း ဖတ်ခြင်းကိုခေါ်သည်။

ဤအာယသ်တော်တွင်လာရှိသော تَرْتِيْلُ ၏ဆိုလိုချက်ကို အစ္စလာမ့်စတုတ္ထ ခလီဖာသမ္မတကြီး''အလီ'' ﷺ အား မေးမြန်းသည့်အခါ ထိုခလီဖွာသမ္မတ ကြီးက تجويد الحُرُوْفِ ومَعْرِفَةُ الْوُقُوْفِ (အက္ခရာများအား ဌာန်ကရိုဏ်း ကျကျဖတ်ခြင်းနှင့် ရပ်နားမှုဆိုင်ရာဥပဒေများကို သိရှိနားလည်ပြီး လက်တွေ့ အကောင်အထည်ဖော်ခြင်း)ဟု ဖွင့်ဆိုခဲ့ပေသည်။

အထက်ပါအာယသ်တော်အရ ကုရ်အာန်ကျမ်းတော်မြတ် ဖတ်သူတိုင်းအပေါ် သဂျ်ဝီးဒ်နှင့်တကွဖတ်ရန် ''ဖရ်သို့အိုင်းန်'' မလုပ်မနေရတာဝန်အဖြစ် ပညတ်ထား ကြောင်း သိရှိရပေသည်။ ထို့အတူ အလ္လာဟ်အရှင်မြတ်သည် ကုရ်အာန်ကျမ်းတော် မြတ်အား''သဂျ်ဝီးဒ်''နှင့်တကွ ချပေးခဲ့သည်ဖြစ်ကြောင်းကိုလည်း သိရှိရပေသည်။ သို့ပါသောကြောင့် ကုရ်အာန်ကျမ်းတော်မြတ်ကို ''သဂျ်ဝီးဒ်''ဥပဒေများနှင့်အညီ ဖတ်ရန် အမိန့်ပေးထားခြင်းဖြစ်သည်။

**(၂) ဟဒီးဆ်တော်လာ အထောက်အထားများ။**

عن زيد بن ثابت ﷺ عن النبى ﷺ أنه قال : إنّ الله يحب أن يقرأالقرآن كما أنزل. أخرجه ابن خزيمة. فى صحيحه (المنح الفكرية ص : ٢٩) وعزاه فى كنز العمال (١:١٦٤) إلى السجزى فى الإمامة،وإعلاء السنن ص ١٦٦ ج ٤

ဇိုင်ဒွ်ဗ်နို့ဆာဗစ်သ်ﷺ သခင်က တမန်တော်မြတ် ﷺ မိန့်တော်မူခဲ့သည်ကို

ဆင့်ပြန်ခဲ့သည်။ ကေန်အလ္လာဟ့်အရှင်မြတ်သည် ကုရ်အာန်ကျမ်းတော်မြတ်အား မိမိချပေးတော်မူခဲ့သည့်အတိုင်း ဖတ်ခြင်းကိုသာ လိုလားနှစ်သက်တော်မူပေသည်။(၁)

အထက်ပါ''အာယသ်''တော်အရသော်လည်းကောင်း၊ ဟဒီးဆ်တော်အရ သော်လည်းကောင်း ကုရ်အာန်ကျမ်းတော်မြတ်ကို သဂျ်ဝီးဒ်ဥပဒေများနှင့်အညီဖတ်ရန် မလုပ်မနေရ တာဝန်အဖြစ် သတ်မှတ်ထားကြောင်း သိရှိရပေသည်။

## (၃) "အစ်ဂ်ျမာအွလ်အွမ္မသေ့"အရ လာရှိသော အထောက်အထားများ။

အစ္စလာမ့်ရှရီအသ် တရားတော်မြတ်တွင် တတိယအဆင့်အနေနှင့် ဥပဒေ အထမြောက်ရေးမူ''အစ်ဂ်ျမားအ်''အရ''သဂ်ျဝီးဒ်''ပညာရပ်နှင့် ပါတ်သက်၍ အောက် ပါအတိုင်း ဆုံးဖြတ်ချက်လာရှိထားပါသည်။

လမ်းမှားအပေါ်စုစည်းမှုမှ ထိန်းသိမ်းကာကွယ်ထားခြင်းခံရသော အွမ္မသ်သား များသည် တမန်တော်မြတ် မို့ဟမ္မဒ် ﷺ သခင်၏ ခေတ်သမယမှစ၍ ယနေ့ တိုင်'သဂ်ျဝီးဒ်'ဥပဒေများနှင့်အညီ ကုရ်အာန်ဖတ်ရွတ်ရန် ''ဝါဂျစ်ဗ်'' မလုပ်မနေရ တာဝန်ဖြစ်ကြောင်း တညီတညွတ်ဆုံးဖြတ်ခဲ့ကြလေသည်။ ၎င်းတို့အနက်မှ တစ်ဦး တစ်ယောက်မျှ ဆန့်ကျင်ကွဲလွဲမှုမရှိဘဲ ယခုကဲ့သို့ တစ်ညီတညွတ်တည်း ဆုံးဖြတ် ချက်ချခဲ့ကြခြင်းသည်ပင်လျှင် အလေးအနက်ဆုံးသော အထောက်အထားတစ်ခုအဖြစ် မှတ်တမ်းတင်ခဲ့ကြလေသည်။(၂)

''သဂ်ျဝီးဒ်''ပညာရပ်၏အရေးကြီးလေးနက်ပုံကို''အလ်အေမားမ်မို့ဟမ္မဒ္ဒဗ်နို့ မို့ဟမ္မဒေ့နစ်လ်ဂျဇရီ'' (رحمه الله) الإمـام محمد بن محمدالجزرى သခင်ကြီး က အောက်ပါအဆိုအမိန့်ဖြင့် ဆုံးဖြတ်ဓမ္မသတ် ထုတ်ပြန်ခဲ့သည်။

---

(١) قوله : عن زيد بن ثابت الخ وقوله :( إنَّ اللّٰه يحب) لا ينافى الوجوب الخ .

(إعلاء السنن ـ ج ٤ ص ١٦٥)

(٢) فـقد أجمعت الأمة المعصومة من الخطأ على وجوب التجويد من زمن النبىّ ﷺ إلى زماننا ولـم يختلف فى ذلك أحد منهم وهذا من أقوى الحجج ...القول السديد ص ٢٧ .

အဆိုပါဓမ္မသတ်အပေါ် ''မဇ်ဟဗ်'' အားလုံးမှ သာသနာ့ပညာရှင်များသည် တညီတညွတ်တည်း ယနေ့တိုင် လိုက်နာကျင့်သုံးလျက်ရှိနေကြသည်။ သို့ပါ၍ အဆိုပါဓမ္မသတ်၏ အဆင့်အတန်းသည် သာပိုလေးနက်ခိုင်မာသွားပြီး ဆန့်ကျင်ပိုင်ခွင့်မရှိသောအဆင့်သို့ ရောက်သွားပေသည်။ ထို့အပြင် အကယ်၍ မည်သူမဆို ဤသို့သော ဓမ္မသတ်ကိုဆန့်ကျင်ခဲ့ပါက ထိုသူ့အား မွတ်စလင်မ်ဟုဆိုရန်ပင် ခဲယဉ်းပေလိမ့်မည်။

وَ الأَخْذُ بِالتَّجْوِيْدِ حَتْمٌ لاَزِمٌ.

သဂျ်ဝီးဒ်ပညာဆည်းပူးခြင်းသည် အရေးကြီးသော မလုပ်မနေရ တာဝန်ဖြစ်သည်။

مَنْ لَمْ يُجَوِّدِ الْقُرْآنَ اٰثِم ،

မည်သူမဆို ကုရ်အာန်ကျမ်းမြတ်ကို သဂျ်ဝီးဒ်ဥပဒေနှင့်အညီမဖတ်ရွတ်ပါက ထိုသူသည် အကုသိုလ်ကျူးလွန်သူဖြစ်သည်။

لأَنَّهُ بِهِ الإِلٰهُ أَنْزَلاَ

အလ္လာဟ်အရှင်မြတ်သည် ထိုကုရ်အာန်ကျမ်းတော်မြတ်ကို အဆိုပါ သဂျ်ဝီးဒ်ဥပဒေနှင့်အတူ ချပေးခဲ့သည့်အတွက်ကြောင့်ပင်တည်း။

وَهٰكَذَا مِنْهُ إِلَيْنَا وَصَلاَ

ထို့နောက် ဤသို့ပင်''သဂျ်ဝီးဒ်'' နှင့်တကွ ထိုအရှင့်ထံတော်ပါးမှ ကျွန်ုပ်တို့ထံသို့ ကုရ်အာန်ကျမ်းမြတ်သည် ရောက်ရှိခဲ့သည့်အတွက်ကြောင့်ပင်တည်း။

(النفحة العنبريّة شرح المقدمة الجزريّة ص ٢٠٥)

(အကယ်၍ ကုရ်အာန်ကျမ်းမြတ်ကို သင်ကြားပို့ချပေးသော ဆရာတစ်ဦးသည် ''သဂျ်ဝီးဒ်'' ဥပဒေနှင့် ဆန့်ကျင်ပြီး ကုရ်အာန်ကျမ်းမြတ်ကို သင်ကြားပို့ချပါက ထိုသူသည် လစာရပိုင်ခွင့်ရှိသူ ဖြစ်နိုင်ပါမည်လော၊)ဟု အထက်ပါ ''အေမာမ်ဂျဇရီ'' (رحمه الله) သခင်ကြီးအား မေးမြန်းခဲ့ရာ သခင်ကြီးက ဤသို့

ဓမ္မသတ်ဆုံးဖြတ်ဖြေကြားခဲ့သည်။

لا يستحقّ الأجرة -ထိုသို့သောဆရာသည် လစာရပိုင်ခွင့် ရှိသူမဟုတ်ပေ။

အေမာမ်ရှာဖေအီ (رحــــمــــه الله) သခင့်ထံတွင် သဂ်ျဝီးဒ်နှင့်ဆန့်ကျင်ပြီး ကုရ်အာန်ဖတ်ရွတ်သူသည် فـاسـق (ဖာစစ်က်)ဖြစ်သည်။ ကြည့် - (النفحة العنبر ية شرح المقدّ مة الجزريّة ص ٢٠٨)

الشيـخ أبو العز القلانسى (رحمه الله)သခင်က ရှိက်ခ်အဗွတ်လ်အစ်ဇ် ''သဂ်ျဝီးဒ်'' ပညာ၏ အရေးကြီးလေးနက်ပုံကို အောက်ပါအဆိုအမိန့်ဖြင့် ဓမ္မသတ် ဆုံးဖြတ်တင်ပြထားသည်။

يا سائلاً تجويد ذا القرآن ☆ فخذ هديت عن أولى الإتقان

ထိုကုရ်အာန်ကျမ်းမြတ်၏ သဂ်ျဝီးဒ်ပညာရပ်အား သိလိုသော အိုမေးမြန်းသူ ကျွမ်းကျင်သောသာသနာ့ပညာရှင်များထံမှ အသင်သိလိုသောပညာကို ဆည်းပူးကုန်၊ သင်သည် လမ်းမှန်ကို ဒိဋ္ဌချီးမြှင့်ခံရပေမည်။

تجويده فرض كـمـاالصلاة ☆ جاء ت به الأخبار والآيات

ကုရ်အာန်ကျမ်းတော်မြတ်အား သဂ်ျဝီးဒ်နှင့်အညီ (ဖတ်ရွတ်ရန်)တာဝန်သည် ဆွလားသ်ဝတ်ပြုမှုကဲ့သို့ ''ဖရ်သို့အိုင်းန်'' မလုပ်မနေရ တာဝန်ဖြစ်သည်။ ထိုအကြောင်းကို ''အာယသ်''တော်များနှင့် ''ဟဒီးဆ်''တော်များက အတိအလင်းဖော်ပြထားသည်။

وجاحدا التجويد فهو كافر ☆ فدع هواه إنه لخاسر

အိုသဂ်ျဝီးဒ်၏ အရေးကြီးမှုကို ငြင်းဆန်သူ (မည်သည့်မနုဿပင်ဖြစ်စေ) ထိုသူသည် ကာဖစ်ရ်ဖြစ်၏။ သို့ဖြစ်ပေရာ အသင်သည် ထိုဒိဋ္ဌိ၏ အလိုကျလိုက်မှုကို စွန့်လွှတ်ကုန်။ ကေန်မုချ ထိုသူသည်ကား ဆုံးရှုံးနစ်နာသူပင်တည်း။

وغير جاحد الوجوب حكمه ـ معذّب وبعد ذاك إنه

''သဂ်ျဝီးဒ်'' ဝါဂျစ်ဗ်ဖြစ်ကြောင်း ငြင်းဆန်မှုမပြုဘဲ လက်တွေ့လိုက်နာမှု မရှိသောသူနှင့်ပတ်သက်၍ တရားတော်လာဆုံးဖြတ်ချက်မှာ ထိုသူသည် အရေးယူ

အပြစ်ပေးခံရမည်။

يؤتى به لروضة الجنات ـ كغيره من سائر العصاة

ထိုသို့အပြစ်ပေးခံရပြီးနောက် မိမိအပြင် အခြားအကုသိုလ်ပြုကျင့်သူများကဲ့သို့ ''ဂျန္နသ်''သုခဘုံသို့ ခေါ်ဆောင်လာခြင်းခံရမည်။

إذ الصلاة منهم لاتقبل ـ ولعنة المولى عليهم تنزل

''သဂျ်ဝီးဒ်'' ဥပဒေနှင့်အညီ မဖတ်ရွတ်သူတို့ဘက်မှ ဆွလားသ်ဝတ်ပြုခြင်း ''ကဗူလ်''ပြုလက်ခံမှု မရရှိပေ။ ၎င်းနောက် အလ္လာဟ့်အရှင်မြတ်သခင်၏ သနား ဂရုဏာတော်မှ ကင်းဝေးသောကျိန်စာသည် ထိုသူတို့အပေါ် သက်ရောက်နေမည်သာ ဖြစ်သည်။

لأ نّـهـم كتاب ربّى حرّفوا ـ وعن طريق الحق زاغوا فانتفوا

ထိုသူတို့သည် ကျွန်ုပ်အား မွေးမြူဖန်ဆင်းတော်မူသော အရှင်မြတ်၏ နူတ်ကပါဌ်တော်ကို ပြောင်းလဲခဲ့ကြခြင်းနှင့် တရားလမ်းမှန်မှ သွေဖည်ခဲ့ကြသည့်အတွက် ကြောင့်ပင်တည်း။ သို့အတွက် ထိုသူတို့သည် အရှင်မြတ် ဂရုဏာတော်အရိပ်မှ အနှင် ခံဘဝဖြင့် ဝေးကြကုန်လေပြီ။ القـول السديد ص ٣٧ ـ ٣٨

ဟနဖီမဇ်ဟဗ်ဝင်ဖေကာ ဓမ္မသတ် ကျမ်းရှင်ကြီးများက ''သဂျ်ဝီးဒ်''၏ အရေးကြီးလေးနက်ပုံကို ဤသို့ဆုံးဖြတ်တင်ပြခဲ့ကြသည်။ (၁)

''သဂျ်ဝီးဒ်'' သည် ဝါဂျစ်ဗ်ဖြစ်သည်။ အကယ်၍ တစ်ဦးတစ်ယောက်သည် ကုရ်အာန်ဖတ်ရာတွင် ဍာန်ကရိုဏ်းကျ မနှေး မှန်ကန်ပီသရေးကို နေ့ညမနား မပြတ် အမြဲ ကြိုးစားဆဲတွင် မပီသစဉ် ထိုသူဝတ်ပြုသော ဆွလားသ်မှုကို ပိုင်သည်ဆို၏။

---

(١) قـلت : وقد صّرح بوجوب التجويد وتصحيح الحروف فقها ؤنا الحنفية أيضًا، قال فى غنية الـمستملى : وقال صاحب المحيط:والمختارللفتوى فى جنس هذه المسائل أنه إن كان يجتهد آنـاء الـليـل وأطـراف الـنهار فى التصحيح ولايقدرعليه فصلا ته جائزة، وإن ترك جهده فصلا ته فـاسـدة، وإن ترك جهده فى بعض عمره لايسعه أن يتركه فى باقى عمره، ولو ترك تفسد صلا ته، انتهى. إعلاء السنن ج ٤ ص ١٦٣.

ဤသို့ ကြိုးစားသင်ယူဆည်းပူးမှုသည် ကုန်လွန်ခဲ့သော သက်တမ်းတွင် မဆောင်ရွက်နိုင်ခဲ့သော်ငြားလည်း ကျန်သက်တမ်းတွင် အဆိုပါ တာဝန်ကို လွှတ်ရန် မပိုင်။ ဖော်ပြပါ ပညတ်ချက်ရှိပါလျက် ကြိုးစားသင်ယူမှုကို အကယ်၍လွှတ်ခဲ့ပါက ထိုသူ၏ ဆွလားသ်ပျက်လေသည်။



## ( مراتب التجويد فى القراءة ثلاثة )

**ဖတ်ရွတ်သရဇ္ဈာယ်ရာ၌ သဂျ်ဝီးဒ်၏ အဆင့်များမှာ (၃) ခုရှိပါသည်။**

(١) تَـرْتِـيْـلٌ (٢) حَـدْرٌ (٣) تَـدْوِيـرٌ တို့ဖြစ်ပါသည်။

(١) فالترتيل هو التأنّى بالقراءة

(၁) تَرْتِيْلٌ – ဟူသည်မှာ – ဥပဒေများနှင့်အညီ ဌာန်ကရိုဏ်းကျကျ ဖြေးဖြေး ဖတ်ခြင်းကို ခေါ်ဆိုပါသည်။

(٢) والحدرهو الإسراع بها

(၂) حَـدْرٌ – ဟူသည်မှာ – ဥပဒေများနှင့်အညီ ဌာန်ကရိုဏ်းကျကျ မြန်မြန် ဖတ်ခြင်းကို ခေါ်ဆိုပါသည်။

(٣) والتدوير مرتبة بينهما

(၃) تَدْوِيْرٌ – ဟူသည်မှာ – ဥပဒေများနှင့်အညီ ဌာန်ကရိုဏ်းကျကျ အထက်ပါ ပုံစံ(၂)ခုအကြားတွင်ရှိသော အလယ်အလတ်ပုံစံဖြင့် ဖတ်ခြင်းကို ခေါ်ဆိုပါသည်။



# أركان التجويد أربعة

**သဂျ်ဝီးဒ်ပညာ၏ မဏ္ဍိုင်ကြီး(၄)ခု ရှိပါသည်။**

(١) الركن الأوّل ـ معرفة مخارج الحروف

(၁) ပထမမဏ္ဍိုင် – အက္ခရာများထွက်သည့်နေရာများကို သိနားလည်ခြင်း။

(٢) الركن الثانى ـ معرفة صفاتها

(၂) ဒုတိယ မဏ္ဍိုင် – အက္ခရာများ၏ ဝိသေသများကို သိနားလည်ခြင်း။

(٣) الركن الثالث ـ معرفة ما يتجدّد لهامن الأحكام بحسب التركيب .

(၃) တတိယမဏ္ဍိုင် – ပေါင်းစပ်မှုကို အကြောင်းပြု၍ အသစ်ပေါ်ပေါက်လာမည့် ပညတ်ချက်များကို သိနားလည်ခြင်း။

(٤) الركن الرابع ـ رياضة اللسان بكثرة التكرار، والأخذعن أفواه المشائخ العارفين به.

(၄) စတုတ္ထမဏ္ဍိုင် – နှုတ်လျှာကိုထပ်တလဲလဲများစွာ လေ့ကျင့်ပေးနေခြင်းနှင့် တတ်ကျွမ်းနားလည်သော ပညာရှင်ဆရာသခင်ကြီးများ၏နှုတ်တော်များမှ တိုက်ရိုက် သင်ယူဆည်းပူးခြင်းတို့ဖြစ်ပါသည်။

❖ ❖ ❖ ❖ ❖ ❖ ❖

# بَابٌ فِى بيان مَعْرِفَةِ الأَسْنَانِ

## သွားများအကြောင်း

သွားများ၏ အမျိုးစုအမည်များမှာ (၄)မျိုးရှိပါသည်။

(၁) ثَنِيَّةٍ (جَمْعُ) الثَّـنَايَا – ရှေ့သွားကြီးများ

(၂) رَبَاعِيَةٍ (جَمْعُ) الرَبَاعِيَاتُ – ဒုတိယ(၄)ချောင်းအုပ်စု

(၃) نَابٍ (جَمْعُ) الأَنْيَابُ – အစွယ်များ

(၄) ضِرْسٍ (جَمْعُ) الأَضْرَاسُ – အံသွားအုပ်စု

(၁) الثَّنَايَا – (၂) မျိုးရှိပါသည်။

(က) الثَّنَايَا العُلْيَا – အပေါ်ရှေ့သွားကြီး (၂) ချောင်း။

(ခ) الثَّنَايَا السُفْلٰى – အောက်ရှေ့သွားကြီး (၂) ချောင်း။

(၂) الرَبَاعِيَاتُ (၂)မျိုးရှိသည်။ ၎င်းတို့မှာ–

(က) الرَبَاعِيَاتُ العُلْيَا (၂)ချောင်း၊ ၎င်းတို့မှာ الثَّنَايَا العُلْيَا တို့၏ဘေးတွင် ကပ်နေသည်။

(ခ) الرَبَاعِيَاتُ السُفْلٰى (၂) ချောင်း၊ ၎င်းတို့မှာ الـثَّـنَايَا السُفْلٰى တို့၏ ဘေးတွင် ကပ်နေသည်။

(၃) الأَنْيَابُ (၄)ချောင်းရှိသည်။ ၎င်းတို့မှာ အထက်ပါ الرَبَاعِيَاتُ العُلْيَا နှင့် الـرَبَـاعِيَـاتُ السُفْلٰى တို့၏ဘေးတွင် ကပ်နေသော အထက် အောက်၊ ဘယ်၊ ညာပေါင်း သွား(၄)ချောင်းတို့ကို ခေါ်ဆိုပါသည်။

(၄) الأَضْرَاسُ အချောင်း(၂၀) ရှိသည်။ ၎င်းတို့မှာ (၃)မျိုးရှိသည်။

(၁) ضَاحِكٍ (جَمْعُ) الضَّوَاحِكُ သည် أَنْيَابٌ တို့ဘေးတွင် ကပ်နေသော

အထက်အောက် ဘယ်ညာပေါင်း သွား(၄)ချောင်းကို ခေါ်ဆိုပါသည်။

(၂) الضَّوَاحِكُ သည် الطَوَاحِيْنُ / الطَوَاحِنُ (جَمْعُ) طَاحِنٍ တို့ဘေးတွင် ကပ်နေသော အထက်အောက် ဘယ်ညာပေါင်း သွား(၁၂) ချောင်းကိုခေါ်ဆိုပါသည်။

(၃) الطَّوَاحِنُ သည် النَّوَاجِذُ (جَمْعُ) نَاجِذٍ တို့ဘေးတွင်ကပ်နေသော အထက် အောက် ဘယ်ညာပေါင်း သွား(၄)ချောင်းကို ခေါ်ဆိုပါသည်။





# مَخَارِجُ الْحُرُوْفِ الْعَرَبِــيَّـةِ الْهِجَائِيَّــةِ

## အရဗီဗျည်းအက္ခရာတို့ထွက်သည့် နေရာများအကြောင်း

မေး – အရဗီဗျည်းအက္ခရာများ မည်မျှရှိသနည်း။

ဖြေ – (၂၉)လုံး ရှိပါသည်။

မေး – ဤ(၂၉)လုံးထွက်သောနေရာ (مَخْرَجٌ) မည်မျှရှိသနည်း။

ဖြေ – တိကျခိုင်မာသောညာရှင်ကြီးများ၏အဆိုအရ အထက်ပါ(၂၉)လုံးထွက်သောနေရာ (مَخْرَجٌ) တို့သည် ( ၁၇ )ခု ရှိပါသည်။

မေး – အထက်ပါ (مَخْرَجٌ)(၁၇)ခုသည်မည်မျှနေရာများ၌ တည်ရှိနေပါသနည်း။

ဖြေ – ဖော်ပြပါ (مَخْرَجٌ) (၁၇)ခုသည် (၅)နေရာတွင်တည်ရှိနေပါသည်။

ယင်းနေရာ (၅)ခုသည် အောက်ပါအတိုင်း ဖြစ်ပါသည်။

١ـ اَلْجَوْفُ　　٢ـ اَلْحَلْقُ　　٣ـ اَللِّسَانُ

٤ـ اَلشَّفَتَان　　٥ـ اَلْخَيْشُوْمُ

(١) اَلْجَوْفُ ဟူသည်မှာ (خَـلَاءُ الْـفَـمِ وَالْحَـلْقِ) ပါးစပ်အတွင်းနှင့် လည်ချောင်းအတွင်းရှိ လေဟာနယ်ကို ခေါ်ပါသည်။

**လေဟာနယ်ဖြစ်ပုံ၏ ရှင်းလင်းချက်။**

လည်ချောင်းသည် ပိုက်လုံးပမာဖြစ်သည့်အတွက် လည်ချောင်းအတွင်း၀ယ် လေဟာနယ်ရှိနေသည်မှာ နားလည်သဘောပေါက်မှု လွယ်ကူသောကိစ္စဖြစ်သည်။ ပါးစပ်အတွင်း လေဟာနယ်ရှိပုံသည် လျှာကို အပေါ်အောက်၊ ဘယ်ညာတို့တွင် မထိဘဲ တည်ထားသောပုံစံအား ဆိုလိုပါသည်။ ယင်းပုံစံတည်ထားသည့်အခါတွင် လည်ချောင်းအတွင်းနှင့် ပါးစပ်အတွင်းရှိ နေရာနှစ်ခုလုံးသည် တစ်ပြိုင်တည်း

လေဟာနယ်ဖြစ်သည့်အတွက် ရှေ့တွင်ဖေါ်ပြမည့် ‘‘حـروف الـمـدّة’’ (၁) ဆွဲသံများအား ထိုလေဟာနယ်မှ အကောင်အထည်ဖေါ်နိုင်ပေသည်။

(٢) اَلْحَلْقُ – လည်ချောင်း

(٣) اَللِّسَانُ – လျှာ

(٤) اَلشَّفَتَان – နှုတ်ခမ်းနှစ်ခု

(٥) اَلْخَيْشُوْمُ (أَقْصَى الْأَنْفِ) – နှာတံရင်း

﴿١﴾ اَلْجَوْفُ ၏ အဓိပ္ပါယ်ဖော်ပြပြီး ဖြစ်ပါသည်။ الجوف တွင် مَخْرَجٌ (ခေါ်) အက္ခရာထွက်သောနေရာ (၁)ခုရှိပါသည်။ ယင်း مَخْرَجٌ မှ حُرُوْفُ الْمَدَّةِ သုံးလုံး ထွက်လေသည်။ ၎င်းတို့ပုံစံမှာ (ا)အလျင် ـَـ فَتْحَةٌ ရှိပုံ၊ (وْ) အလျင် ـُـ ضَمَّةٌ ရှိပုံနှင့် (یْ) အလျင် ـِـ كَسْرَةٌ ရှိပုံတို့ ဖြစ်ပါသည်။ ဥပမာ - نُوْحِيْهَا

﴿٢﴾ اَلْحَلْقُ လည်ချောင်းတွင် مَخْرَجٌ (၃)ခုရှိသည်။ ယင်း مَخْرَجٌ တစ်ခုတိုင်းမှ အက္ခရာ(၂)လုံးကျစီ ထွက်ပါသည်။

مَخْرَجٌ (၁) أَقْصَى الْحَلْقِ (ခေါ်) ရင်စပ်နှင့်ဆက်နေသော လည်ချောင်း၏ အစွန်ဆုံးနေရာမှ ء နှင့် هـ တို့ထွက်လေသည်။ ဥပမာ - اِهْدِنَا - أَنْبِئْهُمْ - يُؤْمِنُوْنَ - يَهْدِىْ

مَخْرَجٌ (၂) (وَسَطُ الْحَلْقِ) (ခေါ် )လည်ချောင်း၏အလယ်မှ ع နှင့် ح တို့ထွက်လေသည်။ ဥပမာ - نَعْبُدُ - اَلرَّحْمٰنُ

مَخْرَجٌ (၃) أَدْنَى الْحَلْقِ (ခေါ်) ပါးစပ်နှင့်အနီးဆုံး လည်ချောင်း၏အစိတ်အပိုင်းမှ غ နှင့် خ တို့ထွက်လေသည်။ ဥပမာ– يَغْفِرُ - أَخْرَجَكُمْ

﴿٣﴾ اَللِّسَانُ တွင် مَخْرَجٌ (၁၀)ခုရှိပါသည်။ အဆိုပါ مَخْرَجٌ (၁၀)ခုမှအက္ခရာပေါင်း (၁၈)လုံး ထွက်ပါသည်။

مَخْرَجٌ (၁) أَقْصَى اللِّسَانِ (ခေါ်) လျှာအရင်းပိုင်းအားငင်းနှင့်တည့်နေသောခေါင်ပိုင်းတို့ဖြင့် ပေါင်းပြီးဖတ်ပါက ق ထွက်လေသည်။

ဥပမာ - اِقْرَأْ - لَا تَقْتُلُوْا

مَخْرَجٌ (၂) ق ထွက်သောနေရာမှအနည်းငယ်ပါးစပ်ဘက်တိုး၍ထိုနေရာနှင့်တည့်နေသောအပေါ်ခေါင်ရှိနေရာအားအသုံးပြုပြီးဖတ်ပါက ك ထွက်လေသည်။

ဥပမာ - يَكْتُمُوْنَ - أَكْبَرُ

مَخْرَجٌ (၃) وَسَطُ اللِّسَانِ (ခေါ်) လျှာအလယ်ပိုင်းကို ငင်းနှင့်တည့်နေသောအပေါ်ခေါင်ပိုင်းဖြင့် ပူးပေါင်း၍ဖတ်ပါက ج - ش နှင့် حُرُوْفُ الْمَدَّةِ တွင် မပါသော ي တို့ထွက်လေသည်။

ဥပမာ - أَلَمْ يَجْعَلْ - يَشْرَحْ - يُؤْمِنُوْنَ

مَخْرَجٌ (၄) أضراس (ခေါ်) အံသွားအချောင်း(၂၀)တို့အနက်မှ ဘယ်ဖက်အပေါ်တွင်ရှိသောအံသွား(၅)ချောင်းတို့အား ငင်းနှင့်တည့်နေသောလျှာဘေးစောင်းအပိုင်းတို့ဖြင့် ပူးပေါင်း၍ဖတ်ပါက ض ထွက်လေသည်။ (١)

ဥပမာ - أَضْحَكَ - تَضْحَكُوْنَ

---

(١) إحدى حافتي اللسان ممّا يلي الأضراس العليا اليسرى أو اليمنى ويخرج منه الضاد ، وخروجها من اليسرى أيسر وأكثراستعمالا ومن اليمنى أصعب وأقل استعمالا ومن الجانبين معا أعز وأعسروبالجملة فالضاد أصعب الحروف وأشدها على اللسان ولاتوجد في لغة غير العربية ولذلك تسمى لغة الضاد.(غاية المريد في علم التجويد ص : ١٢٠) (تأليف عطية قابل نصر) غير أن الضاد من الناجذ إلى الضاحك واللام منه (من الضاحك)إلى الثنية يعنى من الضاحك فيشمل الضاحكين والنابين والرباعيتين والثنيتين. (أحكام قراءة القرآن الكريم ص:٦٦)

مَخْرَجٌ (၅) အပေါ်ပထမဆုံးအံသွားနှင့်တည့်ညီသော လျှာဘေးစောင်းပိုင်းတို့မှစ၍ လျှာထိပ်ထိရောက်သော နေရာများကို ၎င်းတို့နှင့်တည့်ညီသော အပေါ်သွားဖုံးဖြင့် ထိ၍ဖတ်ပါက ل ထွက်လေသည်။ (၁)

ဥပမာ بِالْحَقِّ - تِلْقَاءَ - اَلْحَمْدُ -

لَا تَجْعَلْنَا - أَصْحَابُ الْجَنَّةِ

مَخْرَجٌ (၆) ل ထွက်ရာတွင်အသုံးပြုခဲ့သော လျှာဘေးပိုင်းတို့ကိုအနည်းငယ်လွှတ်၍ ကျန်လျှာထိပ်ပိုင်းတို့ကို ၎င်းတို့နှင့်တည့်နေသောအပေါ်သွားဖုံးများဖြင့် ထိပြီးဖတ်ပါက ن ထွက်လေသည်။ ဥပမာ - أَنْعَمْتَ -

وَانْحَرْ - نَعْبُدُ - مِنْ أَهْلِ الْكِتَابِ - نَارٌ حَامِيَةٌ

မှတ်ချက် - ဖော်ပြပါနေရာမှ ن ထွက်သည်ဆိုခြင်းမှာ ( نُوْنٌ مُتَحَرِّكَةٌ )

( اَلنُّوْنُ السَّاكِنَةُ الْمُظْهَرَةُ ) နှင့် ( نُ ـ نِ ـ نَ )

(အစ်ဖ္ဖ်ဟာရှန်ဖြစ်သော နူးနွန်ဆာကေ့နသွန်)တို့ကို ဆိုလိုခြင်းဖြစ်သည်။

مَخْرَجٌ (၇) လျှာဗဟိုထိပ်ပိုင်းကိုသာ အသုံးပြုလျက် ယင်းလျှာထိပ်ပိုင်းနှင့်ဆက်နေသောလျှာကျောပိုင်းသို့ အနည်းငယ်ယိမ်းပြီး အပေါ်ရှေ့သွားကြီးများ၏ သွားဖုံးအထက်ပိုင်းများနှင့် အနည်းငယ်ထိ၍ဖတ်ပါက ر ထွက်လေသည်။

ဥပမာ - يَرْزُقُ - يَنْصُرْكُمْ

مَخْرَجٌ (၈) လျှာအဖျားကို အပေါ်ရှေ့သွားကြီးနှစ်ချောင်း၏ အရင်းဖြင့်ထိပြီး ဖတ်ပါက ت ـ د ـ ط တို့ ထွက်လေသည်။ ဥပမာ -

أَطْعَمَهُمْ - لَمْ يَلِدْ - فَطَرَتْ

---

(١) والـلام مـنه ، أي : من الضاحك إلى الثنية ، يعنى من الضاحك فيشمل الضاحكين والنابين والرباعيتين والثنيتين. (أحكام قراءة القرآن الكريم ص:٦٦)

مَخْرَجُ (၉) လျှာအဖျားကို ရှေ့သွားကြီးနှစ်ချောင်း၏အတွင်းပြက်နားတွင် နီးကပ်စေပြီးယင်းလျှာအဖျားကိုအောက်ရှေ့သွားကြီး နှစ်ချောင်း၏ အပေါ်နားတွင်ထား၍ဖတ်ပါက ز - س - ص တို့ ထွက်လေသည်။

ဥပမာ - تُصْبِحُوْنَ - بِسْمِ اللّٰهِ - وِزْرَ -

مَخْرَجُ (၁၀) လျှာအဖျားကို အပေါ်ရှေ့သွားကြီးနှစ်ချောင်း၏ အဖျားများဖြင့် ထိ၍ဖတ်ပါက ث - ذ - ظ တို့ ထွက်လေသည်။ ဥပမာ - مِثْلُ مَا

وَحِيْنَ تُظْهِرُوْنَ - فَاذْكُرُوْنِيْ أَذْكُرْكُمْ - يَلْهَثْ

﴿٤﴾ اَلشَّفَتَانِ (ခေါ်) နှုတ်ခမ်းနှစ်ခုတွင် مَخْرَجُ (၂)ခုရှိပါသည်။ ၎င်းတို့မှ စုစုပေါင်း အက္ခရာ(၄)လုံး ထွက်ပါသည်။

مَخْرَجُ (၁) အောက်နှုတ်ခမ်း၏အတွင်းပိုင်းအား အပေါ်ရှေ့သွားကြီး(၂)ချောင်း၏ အဖျားများဖြင့် ထိ၍ဖတ်ပါက ف ထွက်လေသည်။

ဥပမာ - أَفْوَاجًا - يَفْرَحُوْنَ

مَخْرَجُ (၂) بَيْنَ الشَّفَتَيْنِ (ခေါ်) နှုတ်ခမ်းနှစ်ခုကြားမှ ب ၊ م နှင့် حُرُوْفُ الْمَدَّةِ တွင်မပါသော و တို့ ထွက်လေသည်။

**<u>အနည်းငယ်ခြားနားချက်များ</u>**

(က) နှုတ်ခမ်းနှစ်ခု၏အလယ်ဗဟိုကို လုံးဝိုင်းသောအပေါက်ပုံပမာဖြစ်လာသည်အထိ အနည်းငယ်ဖွင့်ပြီးဖတ်ပါက حُرُوْفُ الْمَدَّةِ တွင်မပါသော و တို့ထွက်လေသည်။ ဥပမာ- وَ - وِ - وُ - وْ - ـــَـ ( مِنْ خَوْفٍ )

(ခ) နှုတ်ခမ်းနှစ်ခု၏စိုနေသောအတွင်းပိုင်းနှစ်ခုအား ပူး၍ဖတ်ပြီး ချက်ချင်း ပြန်ဖွင့်လိုက်သည့်အခါ "ب" ထွက်လေသည်။ ဥပမာ- حَبْلٌ - اَلأَبْصَارَ

(ဂ) နှုတ်ခမ်းနှစ်ခု၏ခြောက်သွေ့သော အပြင်ပိုင်း(၂)ခုကိုပိတ်ပြီး ဖတ်သည့်အခါ "م" ထွက်လေသည်။ ဥပမာ - اَلْحَمْدُ

﴿٥﴾ اَلْخَيْشُوْمُ (ခေါ်) နှာတံရင်းတွင် مَخْرَجٌ (၁)ခုရှိပါသည်။ထို مَخْرَجٌ မှ ဝွန္နဟ်၏ အက္ခရာများဖြစ်သော -

(၁) نّ - مّ တို့ထွက်လေသည်။ ဥပမာ - إِنَّ - ثُمَّ

(၂) نْ နူးနွှန်ဆာကေ့နဟ်(သို့မဟုတ်) ـًـٍـٌ تَنْوِيْنٌ တစ်ခုခုတို့ إِدْغَامٌ بِغُنَّةٍ ဖြစ်သည့်အခါ ထွက်လေသည်။ ဥပမာ - مَنْ يَشَآءُ - وُجُوْهٌ يَوْمَئِذٍ

(၃) نْ နူးနွှန်ဆာကေ့နသွန် (သို့မဟုတ်) ـًـٍـٌ تَنْوِيْنٌ တစ်ခုခုတို့ إِخْفَاءٌ ဖြစ်သည့်အခါ ထွက်လေသည်။ဥပမာ- مِنْ ثَمَرَةٍ - سَلَامٌ قَوْلًا

(၄) مْ မီးမွန်ဆာကေ့နသွန် တစ်ခု၏နောက်တွင် م လာသည့်အတွက် إِدْغَامُ الْمِيْمِ السَّاكِنَةِ ဖြစ်သည့်အခါ ထွက်လေသည်။ لَهُمْ مَغْفِرَةٌ

(၅) مْ မီးမွန်ဆာကေ့နသွန် တစ်ခု၏နောက်တွင် ب လာသည့်အတွက် إِخْفَاءُ الْمِيْمِ السَّاكِنَةِ ဖြစ်သည့်အခါ ထွက်လေသည်။ فَاحْكُمْ بَيْنَهُمْ

(၆) نْ နူးနွှန်ဆာကေ့နဟ်(သို့မဟုတ်) ـًـٍـٌ تَنْوِيْنٌ တစ်ခုခုတို့၏ နောက်တွင် ب လာသည့်အတွက် قَلْبٌ ဖြစ်သည့်အခါ နှာတံရင်းမှ အသံထွက်လေသည်။ ဥပမာ - مِنْ بَعْدِ - مَنْ بَخِلَ (1)

❖ ❖ ❖ ❖ ❖ ❖ ❖

(١) قال العلامة المحقق ابن الجزري في النشر(فلا فرق حينئذ بين : ﴿ أَنْ بُوْرِكَ ﴾ و ﴿ يَعْتَصِمْ بِاللّٰهِ ﴾. (أحكام قراءة القرآن الكريم : ص ١٨١ )

# أَلْقَابُ الْحُرُوْفِ

## အက္ခရာတို့၏ ဂုဏ်ရည်အမည်များအကြောင်း

(၁) ء - هـ - ع - ح - غ - ح တို့ကို اَلْحُرُوْفُ الْحَلْقِيَّةُ ဟုခေါ်သည်။

(၂) ق - ك တို့ကို اَلْحُرُوْفُ اللَّهَوِيَّةُ ဟုခေါ်သည်။

(၃) ج - ش - နှင့် حُرُوْفُ الْمَدِّ တွင်မပါသော ى တို့ကို اَلْحُرُوْفُ الشَّجْرِيَّةُ ဟုခေါ်သည်။

(၄) ف - ر - م - ن - ل - ب (فَرَّ مِنْ لُبٍّ) တို့ကို اَلْحُرُوْفُ الذَّلْقِيَّةُ ဟုခေါ်သည်။

(၅) ت - د - ط တို့ကို اَلْحُرُوْفُ النِّطَعِيَّةُ ဟုခေါ်သည်။

(၆) ز - س - ص တို့ကို حُرُوْفُ الصَّفِيْرِ ၎င်းနောက် اَلْحُرُوْفُ الأَسَلِيَّةُ ဟုခေါ်သည်။

(၇) ث - ذ - ظ တို့ကို اَلْحُرُوْفُ اللِّثَوِيَّةُ ဟုခေါ်သည်။

(၈) ب - م - ف နှင့် حُرُوْفُ الْمَدِّ တွင်မပါသော و တို့ကို اَلْحُرُوْفُ الشَّفَوِيَّةُ ဟုခေါ်ပါသည်။

(၉) ا အလျင် ـَـ فَتْحَةٌ ရှိပုံ၊ وْ အလျင် ـُـ ضَمَّةٌ ရှိပုံနှင့် یْ အလျင် ـِـ كَسْرَةٌ ရှိပုံတို့ကို اَلْحُرُوْفُ الْجَوْفِيَّةُ (သို့မဟုတ်) حُرُوْفُ الْمَدِّ اَلْحُرُوْفُ الْهَوَائِيَّةُ ဟုခေါ်ပါသည်။ ထို့အတူ ဟုလည်း ခေါ်ပါသည်။

(၁၀) یْ အလျင် ـَـ فَتْحَةٌ ရှိပုံနှင့် وْ အလျင် ـَـ فَتْحَةٌ ရှိပုံတို့ကို حُرُوْفُ اللِّيْنِ ဟုခေါ်ပါသည်။

❖ ❖ ❖ ❖ ❖ ❖ ❖

# حُكْمُ النُّوْنِ وَالْمِيْمِ الْمُشَدَّدَتَيْنِ

## နူးနွန် မိုရှဒ္ဒသွန်နှင့် မီးမွမ် မိုရှဒ္ဒသွန်တို့၏ ဥပဒေအကြောင်း

ရပ်နားမှု၌ဖြစ်စေ၊ ဆက်ဖတ်ရာ၌ဖြစ်စေ၊ نّ နူးနွန် မိုရှဒ္ဒဒသွန်နှင့် مّ မီးမွမ် မိုရှဒ္ဒဒသွန်တို့ကို غُنَّةٌ (ခေါ်) နှာတံရှင်းမှအသံဖြင့် ညည်း၍ဖတ်ရမည်။

ဥပမာ- فِى الْيَمِّ ـ وأَمَّا بِنِعْمَةِ رَبِّكَ ـ فَآتُوْهُنَّ أُجُوْرَهُنَّ .

وَمِنَ النَّاسِ ، أَلَآ إِنَّهُمْ ، فَأَمَّا مَنْ أَعْطىٰ ، أَكْلاً لَمًّا ، ثُمَّ لَتُسْئَلُنَّ .



# بَابُ أَحْكَامِ النُّوْنِ السَّاكِنَةِ وَالتَّنْوِيْنِ

## နူးနွန်ဆာကေ့နသွန်နှင့် သန္ဒဝီးနွန်တို့၏ ဥပဒေများအကြောင်း

نْ နူးနွန်ဆာကေ့နသွန်နှင့် ـــٌـــٍـــً သန္ဒဝီးနွန်တို့၏ ဥပဒေများသည် (၄)မျိုး ရှိသည်။ (၁) إِظْهَارٌ (၂) إِدْغَامٌ (၃) قَلْبٌ (၄) إِخْفَاءٌ တို့ဖြစ်ပါသည်။

(၁) إِظْهَارٌ ၏ အဓိပ္ပါယ်မှာ အက္ခရာတိုင်းအား မိမိ၏ مَخْرَجٌ မှ غُـنَّـةٌ အသံမပါဘဲ ဖတ်ခြင်းကို ခေါ်ဆိုပါသည်။

إِظْهَارٌ ဖြစ်ပုံမှာ- نْ နူးနွန်ဆာကေ့နသွန် (သို့မဟုတ်) ـــٌـــٍـــً သန္ဒဝီးနွန် တစ်ခုခုတို့၏နောက်တွင် خ غ ح ع هـ ء ( ခေါ် ) الْـحُرُوْفُ الْحَلْقِيَّةُ (၆)လုံးတို့အနက်မှ အက္ခရာတစ်လုံးလုံး ကျရောက်ပါမူ إِظْهَارٌ ဖြစ်လေသည်။

ဥပမာ- فَسَيُنْغِضُوْنَ - وَانْحَرْ - أَنْعَمْتَ - أَنْهَارٌ- يَنْئَوْنَ

مَنْ حَادَّاللّٰهَ - مَنْ عَلِمَ - مَنْ هَاجَرَ - مَنْ آمَنَ - ☆ اَلْمُنْخَنِقَةُ

فِىْ جَنَّةٍ عَالِيَةٍ - فَرِيْقًا هَدىٰ - كُلٌّ آمَنَ ☆ مِنْ خَوْفٍ - مِنْ غِلٍّ

يَوْمَئِذٍ خَاشِعَةٌ - مَاءً غَدَقًا - نَارٌ حَامِيَةٌ

(၂) إِدْغَامٌ ၏အဓိပ္ပါယ်မှာ سَاكِنَةٌ ဖြစ်နေသော အက္ခရာတစ်လုံးအား حَرَكَةٌ ပါရှိသော အက္ခရာတစ်ခုအတွင်းတွင် ထည့်သွင်းမှုကြောင့် အက္ခရာနှစ်ခုသည် တشديد ပါသောအက္ခရာတစ်ခုအဆင့်မျိုး ဖြစ်သွားမည်။ ထို့အတူ ဖတ်ရွတ်ရာတွင် ယင်းအက္ခရာနှစ်ခုအတွက် အသုံးပြုလျက်ရှိသော အစိတ်အပိုင်း ကြွသွားမှုသည် တစ်ကြိမ်တည်းဖြစ်သွားမည်။ (١)

إِدْغَامٌ (၂)မျိုးရှိပါသည်။ (က) إِدْغَامٌ بِغُنَّةٍ (ခ) إِدْغَامٌ بِغَيْرِ غُنَّةٍ

(က) إِدْغَامٌ بِغُنَّةٍ ဖြစ်ပုံမှာ- نْ နူးနွန်ဆာကေနသွန် (သို့မဟုတ်) ـًـٍـٌ သန္ဒဝီးနွန် တစ်ခုခုတို့၏နောက်တွင် ى - ن - م - و (يَنْمُوْ) တို့အနက်မှ တစ်လုံးလုံး လာရှိပါက إِدْغَامْ بِغُنَّةٍ ဖြစ်သည့်အတွက် ပထမအက္ခရာကို ဒုတိယအက္ခရာထဲတွင် غُنَّةٌ အသံနှင့်တကွ ရောယှက်လျက် ဖတ်ခြင်းကို ခေါ်ဆိုပါသည်။ ဥပမာ-

أَنْ لَنْ يَّقْدِرَ - مَنْ يَّنْصُرُنِىْ - فَمَنْ يَّعْمَلْ - مَنْ يَقُوْلُ

مِنْ مَّالٍ - مِنْ مَاءٍ ☆ مِنْ نُّوْرِكُمْ - مِنْ نَّذِيْرٍ - مِنْ نِعْمَةٍ

مَسْغَبَةٍ يَّتِيْمَا - خَيْرًا يَّرَه ☆ مِنْ وَّاقٍ - مِنْ وَالٍ ☆ مِنْ مَّسَدٍ

---

(١) أَحْكَامُ قِرَاءَةِ القرآن الكريم - ص ١٦٥ التعليق .

وَتَعْمَلْ صَالِحًا نُّؤْتِهَا - كُلًّا نُّمِدُّ ☆ وُجوهٌ يَّوْمَئِذٍ - شَأْنٌ يُغْنِيْهِ

صُحُفًا مُّطَهَّرَةً - لُؤْلُؤًامَنْثُوْرًا ☆ يَوْمَئِذٍ نَاضِرَةٌ - يَوْمَئِذٍ نَّاعِمَةٌ

لِكُلِّ وِجْهَةٌ - مَعْرُوفٌوَّمَغْفِرَةٌ ☆ قَوْلٌ مَّعْرُوْفٌ - رَسُوْلٌ مِّنَ اللّٰه

وَوَالِدٍ وَّمَاوَلَدَ - خَيْرٌ وَّأَبْقٰى

(၁) إِدْغَامٌ بِغَيْرِ غُنَّةٍ ဖြစ်ပုံမှာ- نْ နူးနွန်ဆာကေ့နသွန် (သို့မဟုတ်) ـًـٍـٌ သန္ဒဝီးနွန်တစ်ခုခုတို့နောက်တွင် ل (သို့မဟုတ်) ر တို့ကျရောက်သည့်အခါ ပထမအက္ခရာကို ဒုတိယအက္ခရာထဲတွင် غُنَّةٌ အသံမပါဘဲ ထည့်သွင်းရောယှက် လျက်ဖတ်ခြင်းကို ခေါ်ဆိုပါသည်။

ဥပမာ- مَنْ رَحِمَ - مِنْ رَّبِهِمْ ☆ وَلٰكِنْ لَايَعْلَمُوْنَ - مِنْ لَّدُنْهُ -

أَنْ رَّآهُ اسْتَغْنٰى - مِنْ رَسُوْلٍ - أَنْ لَّمْ يَكُنْ رَّبُّكَ

فِيْ عِيْشَةٍ رَاضِيَةٍ ☆ هُدًى لِلْمُتَّقِيْنَ -أَشْتَاتًا لِّيُرَوْا ☆

غَفُوْرٌ رَّحِيْمٌ - ثَمَرَةٍ رِّزْقًا ☆ مَالًا لُّبَدًا - هُمَزَةٍ لُّمَزَةٍ

نْ နူးနွန်ဆာကေ့နသွန် ၏နောက်တွင် م ن ى و တို့အနက်မှ တစ်ခုခု ကျရောက်မှုသည် စာလုံးတစ်ခုတည်းတွင် ဖြစ်ပါက إِدْغَــــــامٌ ပြုလုပ်ရန် မလိုအပ်ဘဲ إِظْهَارٌ ပြုလုပ်ရန်သာ တာဝန်ရှိကြောင်း ကောင်းစွာမှတ်ကုန်။

ဥပမာ اَلدُّنْيَا - بُنْيَانٌ ☆ قِنْوَانٌ- صِنْوَانٌ-

အဆိုပါဥပဒေအရလာရှိသော إظهار ပြုလုပ်ရသည့်စာလုံးများမှာ ကုရ်အာန် ကျမ်းတော်မြတ်တွင် (၄)လုံးသာရှိပါသည်။

(၃) قَلْبٌ ဖြစ်ပုံမှာ- نْ နူးနွန်ဆာကေ့နသွန် (သို့မဟုတ်) ـًـٍـٌ သန္ဒဝီးနွန် တစ်ခုခုတို့နောက်တွင် ب ကျရောက်ပါက အဆိုပါ نْ နူးနွန်

ဆာကေ့နသွန် (သို့မဟုတ်) ـــٌـــــًـ သန္ဒဝီးနွန် တစ်ခုခုတို့အား ဖတ်ရွတ်ရာ၌ إِخْـفَـاءٌ ဖြစ်နေသော م အသံဖြင့် ပြောင်း၍ဖတ်ခြင်းကို ခေါ်ဆိုပါသည်။ အလိုသဘောမှာ နှုတ်ခမ်းနှစ်ခုအား ပိတ်ပြီး غـــــــنّة အသံဖြင့်ဖတ်ခြင်းကို ဆိုလိုပါသည်။

ဥပမာ–

أَنْ بُوْرِكَ ـ مَنْ بَخِلَ ـ مِنْ بَعْدِ ☆ لَـيُـنْـبَـذَنَّ ـ أَنْـبَأَكَ ـ أَنْـبَـتَـتْ

زَوْجٍ بَـهِـيْـجٍ ـ مُنْـفَـطِـرٌ بِهٖ ـ سَمِـيْـعٌ بَـصِـيْـرٌ

**မှတ်ချက်။** ။ قـلـب ကို အကောင်အထည်ဖေါ်သည့်အခါ နှုတ်ခမ်းနှစ်ခုအား ပိတ်၍ အကောင်အထည်ဖော်ရန် ဝါဂျစ်ဗ် ဖြစ်သည်။ ကြည့် –

(هداية القرّاء لوجوب إطباق الشفتين عند القلب والإخفاء)

(၄) إِخْـفَـاءٌ ၏အဓိပ္ပါယ်မှာ غُـنَّـةٌ تَـشْـدِيْـدٌ မပါဘဲ အသံကျန်ရှိမှုနှင့်တကွ ''အစ်ဒ်ဂါမ်''နှင့်အစ်ဇ္ဖ်ဟာရ်အကြားရှိ ဝိသေသတစ်ခုဖြင့် အက္ခရာအား ဖတ်ရွတ်ခြင်းကို ခေါ်ဆိုပါသည်။

إِخْفَاءٌ [1] ဖြစ်ပုံမှာ– نْ နူးန္ဒန်ဆာကေ့နသွန် (သို့မဟုတ်)ـــٌـــًـ သန္ဒဝီးနွန် တစ်ခုခုတို့ နောက်တွင် ص – ذ – ث – ك – ج – ش
ق – س – د – ط – ز – ف – ت – ض – ظ
တို့အနက်မှ အက္ခရာတစ်ခုခုကျရောက်ပါက إِخْـفَـاءٌ ဖြစ်လေသည်။

ဥပမာ–

يَنْصُرْكُمْ ـ مُنْذِرٌ ـ مَنْثُوْرًا ـ أَنْكَاثًا ـ أَنْجَيْنَاهُ ـ نُنْشِئُ ـ يَنْقُصُوْنَ ـ
مِنْسَأَتَهٗ ـ أَنْدَادًا ـ فَانْطَلَقُوْا ـ إِنَّامُنْـزِلُوْنَ ـ يُنْـفِقُـوْنَ ـ مُنْـتَهُـوْنَ ـ
مَنْـضُوْدٍ ـ يَنْظُـرُوْنَ ☆ أَنْ صَدُّوْكُمْ ـ أَئِنْ ذُكِّرْتُـمْ ـ مِنْ ثَمَرَةٍ ـ

---

(၁) إِخْفَاءٌ ၏အက္ခရာ(၁၅)လုံးအားအောက်ပါကဗျာ၏စာလုံးတိုင်းမှပထမအက္ခရာတွင်သိကိုးထားသည်။

صِفْ ذَاثَـنَا كَمْ جَادَ شَخْصٌ قَدْسَمَا ☆ دُمْ طَيِّـبًا زِدْفِيْ تُقًى ضَعْ ظَالِمَا

أَنْ كَانَ - مَنْ جَاهَدَ - مِنْ شَرِّ - فَإِنْ قَاتَلُوْكُمْ - مِنْ سَيِّأٰتِكُمْ -
مِنْ دُوْنِ اللّٰهِ - فَإِنْ طِبْنَ - فَإِنْ زَلَلْتُمْ - فَإِنْ فَاؤُوْا - فَإِنْ تُبْتُمْ -
مَنْ ضَلَّ - مَنْ ظَلَمَ☆ رِيْحًاصَرْصَرًا - سِرَاعًاذٰلِكَ - جَمِيْعًاثُمَّ -
شَدِيْدًاكَانَ-فَصَبْرٌجَمِيْلٌ-بَأْسٌ شَدِيْدٌ-سَلَامٌ قَوْلًا- بِقَلْبٍ سَلِيْمٍ -
قِنْوَانٌ دَانِيَةٌ - بَلْدَةٌ طَيِّبَةٌ - نَفْسًازَكِيَّةً - كُلٌّ فِىْ فَلَكٍ -
جَنّٰتٍ تَجْرِىْ - عَذَابًا ضِعْفًا - قُرًى ظَاهِرَةً .

☆☆☆☆☆ ☆☆☆☆☆ ☆☆☆☆☆

# بَابُ أَحْكَامِ الْمِيْمِ السَّاكِنَةِ

## မီးမွန်ဆာကေ့နသွန်၏ ဥပဒေများအခန်း

မီးမွန်ဆာကေ့နသွန်တွင် ဥပဒေ(၃) မျိုးရှိပါသည်။

(၁) إِخْفَاءٌ (၂) إِدْغَامٌ (၃) إِظْهَارٌ

(၁) မီးမွန်ဆာကေ့နသွန်၏ إِخْفَاءٌ ဟူသည်- مْ မီးမွန်ဆာကေ့နသွန်၏နောက်တွင် ب လာရှိသည့်အခါ ဖြစ်လေသည်။ လက်တွေ့ဖတ်ရသည့်ပုံစံမှာ နှုတ်ခမ်းနှစ်ခုအား ပိတ်ပြီး غنّة အသံဖြင့်ဖတ်ခြင်းကို ဆိုလိုပါသည်။ ကြည့်-

(هداية القرّاء لوجوب إطباق الشفتين عند القلب والإخفاء )

ဤအမျိုးကို إِخْفَاءٌ شَفَوِىٌّ ဟုလည်း ခေါ်ဆိုပါသည်။

ဥပမာ - فَاحْكُمْ بَيْنَهُمْ - وَمَاهُمْ بِمُؤْمِنِيْنَ

(၂) မီးမွန်ဆာကေ့နသွန်၏ إِدْغَامٌ ဟူသည်- مْ မီးမွန်ဆာကေ့နသွန်၏ နောက်တွင် م လာရှိသည့်အခါဖြစ်လေသည်။ ဤအမျိုးကို إِدْغَامُ مِثْلَيْنِ صَغِيْرًا ဟုလည်း ခေါ်ဆိုပါသည်။ ဥပမာ- أَمْ مَنْ أَسَّسَ بُنْيَانَهٗ - وَلَكُمْ مَاكَسَبْتُمْ

أَمْ مَنْ خَلَقْـنَا - أَمْ مَنْ يَأتِىْ آمِناً - أَمْ مَنْ يَكُوْنُ عَلَيْهِمْ وَكِيْلاً-

وَمِنْهُمْ مَنْ عَاهَدَاللّٰه - لَهُمْ مَغْفِرَةٌ - وَكُنْـتُمْ مِنْهُمْ تَضْحَكُوْنَ-

سَنَسْتَدْرِجُهُمْ مِنْ حَيْثُ لاَيَعْلَمُوْنَ - إِنْ كُنْـتُمْ مُؤْمِنِـيْنَ

(၃) မီးမွန်ဆာကေ့နသွန်၏ إِظْهَارٌ ဟူသည်-مْ ၏နောက်တွင် ب နှင့် م တို့မှအပ ကျန်အက္ခရာ (၂၇) လုံးထဲမှ တစ်လုံးလုံးလာရှိသည့်အခါ ဖြစ်လေသည်။ ဤအမျိုးကို إِظْهَـــارٌ شَـفَـوِىٌّ ဟုလည်း ခေါ်ဆိုပါသည်။

ဥပမာ-

اَلظَّمْآنُ - أَمْ أَمِنْـتُمْ - يَمْـتَـرُوْنَ - أَلَمْ تَـعْـلَمْ - أَمْـثَـالُكُمْ - مَرْجِعُكُمْ ثُمَّ - وَأُلٰئِكُمْ جَعَلْنَا - يَمْحَقُ اللّٰهُ الرِّبٰوا - أَمْ حَسِبْتُمْ - أَمْ خُـلِـقُـوْا - مِنْ بَعْـدِهِمْ خَـلْفٌ - اَلْحَمْدُلِلّٰهِ - لَكُمْ دِيْنُكُمْ - مِنْ ظُهُوْرِهِمْ ذُرِّيَّتَهُمْ - تَرْهَقُهُمْ ذِلَّةٌ- أَمْرًا - وَلَهُمْ رِزْقُهُمْ - إِلَّارَمْزًا - فِىْ قُلُوْبِهِمْ زَيْغٌ - وَامْسَحُوْا بِرُؤُوْسِكُمْ - أَمْ لَهُمْ سُلَّمٌ يَمْـشُـوْنَ بِـهَا - وَهُمْ صَاغِـرُوْنَ - وَامْـضُـوْا حَـيْثُ تُـؤْمَـرُوْنَ وَأَمْـطَـرْنَا عَـلَـيْـهِمْ - وَهُـمْ ظَالِـمُـوْنَ - أَمْ عِـنْـدَهُـمُ الْغَـيْـبُ- وَهُمْ فَـرِحُوْن - أَمْ قَـوْمٌ تُـبَّـعٍ - وَيَـمْـكُرُوْنَ- وَأُمْـلِـىْ لَـهُـمْ- وَهُمْ نَائِـمُـوْنَ - أَمْ هُـمْ قَـوْمٌ طَاغُـوْنَ - أَمْـوَاتٌ - عُـمْـىٌ

◆ ◆ ◆ ◆ ◆ ◆ ◆ ◆ ◆ ◆ ◆ ◆ ◆ ◆

# بَابُ التَّفْخِيْمِ وَالتَّرْقِيْقِ

## အက္ခရာတို့၏ ထည်ဝါမှုနှင့်ပါးလွှာမှုဆိုင်ရာ ဥပဒေများအကြောင်း

خ ص ض غ ط ق ظ - ၎င်းတို့မှာ- حُرُوْفُ اْلِاسْتِعْلاَءِ (၇)လုံးရှိပါသည်။ ၎င်းတို့မှာ- ظ ق ط غ ض ص خ တို့ဖြစ်ပါသည်။ အဆိုပါ(၇)လုံးအား خُصَّ ضَغْطٍ قِظْ ဟူ၍စုစည်းထားသည်။ ဖော်ပြပါ အက္ခရာများအပြင် ကျန်အက္ခရာ(၂၂)လုံးတို့အား ပါးလွှာစွာဖတ်ရမည်။ သို့သော် ل နှင့် ر တို့သည်အချို့အခြေအနေများ၌ تَفْخِيْمٌ ဖတ်ရလေသည်။

◆ ◆ ◆ ◆ ◆ ◆ ◆ ◆ ◆ ◆ ◆ ◆ ◆ ◆

## تَفْخِيْمُ الَّلامِ - ل အား تَفْخِيْمٌ ( ခေါ် ) ထည်ဝါစွာဖတ်ရပုံအကြောင်း

اَللّٰهُ စာလုံး၌ကျရောက်နေသော ل ၏အလျင် فَتْحَةٌ ـَ (သို့မဟုတ်) ضَمَّةٌ ـُ လာရှိပါက ယင်း ل အား تَفْخِيْمٌ ပြုလုပ်ရမည်။

အလ္လာဟ်အရှင်မြတ်၏နာမတော်တွင် ပါရှိသော لام အား تفخيم ပြုရသည့် ဥပမာများ -

مِنَ اللّٰهِ ، شَهِدَ اللّٰهُ ، قَالَ اللّٰهُ ، اَللّٰهُ ، رُسُلُ اللّٰهِ ، يَعْلَمْهُ اللّٰهُ ، إِنِّيْ عَبْدُ اللّٰهِ ، اَللّٰهُمَّ .

သို့ပါ၍ ဖော်ပြပါပုံစံမှအပ ကျန်ပုံစံအားလုံး၌ ل အား تَرْقِيْقٌ (ခေါ်) ပါးလွှာစွာ ဖတ်ရမည်။

ဥပမာ-

بِاللّٰهِ ، لِلّٰهِ ، أَفِي اللّٰهِ شَكٌّ ، مَا يَفْتَحِ اللّٰهُ ، قُلِ اللّٰهُمَّ .

**✱ အထူးသတိပြုရန်**

အထက်ပါစည်းကမ်းချက်များနှင့်အညီ ( اللّٰه )ဟူသော နာမတော်တွင် ပါရှိသည့် لام ကိုသာ သီးသန့် تفخيم ပြုလုပ်ရမည်။

لَامٌ ၏အလျှင်ရှိသော هَمْزَةٌ နှင့် အခြားသောအက္ခရာများအား تفخيم ပြုလုပ်ခြင်းသည် လုံးဝမှား၏။ ဥပမာ – وَمَـــــاللّٰهُ ، وَتَـــــاللّٰهِ ، اَللّٰهُ တို့ကို "အောက်လာဟို၊ ဝသောက်လာဟော့၊ ဝမောက်လာဟို့"အသံဖြင့် تـفخيم ဖတ်ခြင်းတို့သည် လုံးဝမှား၏။ အကြောင်းမှာ သဂျ်ဝီးဒ်ကျမ်းဂန်များတွင်လာရှိသော ဥပဒေများနှင့် လုံးဝဆန့်ကျင်နေသည့်အတွက်ကြောင့်ဖြစ်၏။ ထို့အပြင် ယနေ့ပတ်ဝန်းကျင်တွင် အများက အမှားဖတ်နေခြင်းတို့သည် သံရောင်လိုက်ခြင်းသာဖြစ်ကြပြီး ယင်းလုပ်ရပ်တို့သည် အမှန်တရားအတွက် လုံးဝ အထောက်အထားမဖြစ်ပါ။(١)

◆ ◆ ◆ ◆ ◆ ◆ ◆ ◆ ◆ ◆ ◆ ◆ ◆ ◆

---

(١) ( المقدمة الجزرية ) မှ အထောက်အထားများ

فَـرَقِّـقَـنْ مُسْتَفِلاً مِنْ أَحْرُفِ　　حَـاذِرَنْ تَـفْخِيْمَ لَفْظِ الْأَلِفِ

وَهَـمْـزِ اَلْحَمْدُ أَعُوْذُ اِهْدِنَا　　اَللّٰهُ ثُــــمَّ لَامِ لِلّٰهِ لَـــنَـــــا

——————✱——————✱——————

(و) حـاذرن تـفخيم (همزة) كل من (الحمد) و (أعوذ) و(اهدنا) عند الابتداء بذلك لما فيها من كمال الشدة ، ولمجاورتها العين والهاء المتحدتين معها في المخرج ، ولكون العين والـلام من الحروف الرخوة ، **والـلام فـي اسـم الله من الحروف المفخمة ، فالهمزة مرققة سواء جـاورهـا مفخم أو مرقق أو متوسط ، فلا يختص ذلك لمجاورتها الأحرف المذكورة** . ( الدقائق المحكمة في شرح المقدمة الجزرية (للعلامة زكريا الأنصاري) : ص ٤٣ / ٤٤ )

# تَفْخِيْمُ الرَّاءِ وَتَرْقِيْقُهَا

**( ر အား ထည့်ဝါစွာဖတ်ခြင်းနှင့် ပါးလွှာစွာ ဖတ်ခြင်းအကြောင်း)**

(၁) ـــِـ كَسْرَةٌ ရှိသော ر ကို ( تَرْقِيْقٌ ) ပါးလွှာစွာဖတ်ရမည်။ ဥပမာ- رِجَالٌ

(၂) စာလုံးတစ်ခု၏မူရင်း كَسْرَةٌ ၏နောက်တွင်လာရှိသော رْ ဆာကေနဖတ် ရဲ့နောက်မှာ خُصَّ ضَغْطٍ قِظْ တို့အနက်မှ တစ်လုံးလုံးမလာရှိပါက အဆိုပါ رْ ကို تَرْقِيْقٌ ဖတ်ရမည်။ ဥပမာ - اِغْفِرْ لَنَا

(၃) အထက်ပါပုံစံနှစ်မျိုးမှအပ ကျန်ပုံစံများ၌ رْ ကို ( تَفْخِيْمٌ ) ထည့်ဝါစွာ ဖတ်ရမည်။ ဥပမာ- وَانْصُرْنَا - رُحْمًا - رُبَّ - رَبِّ ارْجِعُوْا - وَارْجِعُوْا

قِرْطَاسٌ - وَانْحَرْ

(၄) فِرْقٌ ၏ ر နှင့်ပတ်သက်၍ ပညာရှင်ကြီးများထံမှ အဆိုအမိန့် အကွဲအပြား လာရှိသည်။

ر - နှင့်ပတ်သက်၍ ဖော်ပြပါ ပညတ်ချက်များသည် မရပ်နားဘဲ ဖတ်ရွတ်နေစဉ် နှင့်သက်ဆိုင်သော ပညတ်ချက်များ ဖြစ်ပေသည်။ ထို့အပြင် အောက်ပါပညတ်ချက်များသည် ر - အက္ခရာပေါ်တွင် ရပ်နားရသည့်အခါပေါ်ပေါက်လာမည့် ပညတ်ချက်များနှင့် သက်ဆိုင်ပေသည်။

**(ရပ်နားသည့်အခါ ပါးလွှာစွာဖတ်ရပုံများ)**

(၁) ـــِـ كَسْرَةٌ ပါရှိသော ر အပေါ်တွင် رَوْمٌ[1] နည်းစနစ်ဖြင့် ရပ်နားသည့်အခါ။

---

(၁) رَوْمٌ - ၏အလိုသဘောကို بَابُ الوَقْفِ တွင် ရှင်းလင်းတင်ပြသွားမည်။

(၂) يْ ယားအွန်ဆာကေ့နသွန်၏နောက်တွင် رْ ရားအွန်ဆာကေ့နသွန်အဖြစ် နှင့်ရပ်နားသည့်အခါ။ ဥပမာ - خَيْـرْ

(၃) كَسْـرَة ـِ ၏နောက်တွင် လာရှိသော ر ကို ဆာကေ့နသွန်အဖြစ်နှင့် ရပ်နားသည့်အခါ။ ဥပမာ - نَاصِـرْ

(၄) ရပ်နားမည့် ر နှင့် كَسْـرَةٌ ـِ ၏အကြားတွင် حَرْفُ اِلاسْتِعْـلاَءِ အပြင် ကျန်အက္ခရာတစ်ခုခု ဆာကေ့နသွန်ဖြစ်လျက် ခြားသည့်အခါ။ ဥပမာ - اَلذِّكْـرْ

(၅) ရပ်နားမည့် ر နှင့် كَسْـرَةٌ ـِ ၏အကြားတွင် حَرْفُ اِلاسْتِعْـلاَءِ တစ်ခုခု ဆာကေ့နသွန်ဖြစ်လျက် ခြားလာပါက နှစ်မျိုးဖတ်ပိုင်ခွင့်ရှိသည်။ تَـفْـخِـيْـمٌ ဖြစ်စေ (သို့မဟုတ်) تَرْقِـيْـقٌ ဖြစ်စေ။ ဥပမာ - مِصْـرْ - عَيْنَ الْـقِـطْـرْ ထို့အပြင် ကျန်ပုံစံများ၌ ر အက္ခရာတွင် ရပ်နားသည့်အခါ تَـفْـخِـيْـمٌ ပြု လုပ်ရမည်။ ဥပမာ - الْـكَـوْثَـرْ - الـنُّـذُرْ - صُـفْـرْ

◆ ◆ ◆ ◆ ◆ ◆ ◆ ◆ ◆ ◆ ◆ ◆ ◆

## بَابُ الْـقَـلْـقَـلَـةِ

الْـقَـلْـقَـلَـةُ ဟူသည်မှာ مَـخْـرَجٌ တွင် ဆာကင်န်ဖြစ်သောအက္ခရာအသံ၏ လှုပ်ရှားမှုပြင်းထန်အားကို ခေါ်ဆိုပါသည်။ ထိုသို့ အသံအားဖြင့်ဖတ်ရခြင်းမှာ ပြည့်ပြည့်ဝဝ ပေါ်လွင်ထင်ရှားစေရန်အတွက် ဖြစ်ပါသည်။

قَـلْـقَـلَـةٌ ပြုလုပ်ရသော အက္ခရာများမှာ (၅)လုံးရှိပါသည်။ ၎င်းတို့မှာ -

ق ـــ ط ـــ ب ـــ ج ـ د တို့ဖြစ်ပါသည်။ ယင်းတို့ကို قُطْبُ جَدٍّ ဟူ၍ စုစည်းထားပါသည်။

قَلْقَلَةٌ (၂)မျိုးရှိပါသည်။ (၁) قَــلْــقَـلَـةٌ صُغْـرٰى (၂) قَلْقَلَةٌ كُبْرٰى တို့ ဖြစ်ပါသည်။ (၁) قَلْقَلَـةٌصُغْرٰى ဖြစ်ပုံမှာ အဆိုပါ အက္ခရာ(၅)လုံးအနက်မှတစ်လုံး လုံးသည် စာလုံးတစ်ခုအတွင်းတွင်ရှိပြီး سَاكِنَةٌ ـــْ ဖြစ်သည့်ပုံကို ခေါ်ဆိုပါသည်။

ဉပမာ- يَدْ خُلُوْنَ - أَلَمْ يَجْعَلْ - عَبْدَهٗ - أَطْعَمَهُمْ - يَقْتُلُوْنَ

(၂) قَلْقَلَةٌ كُبْرٰى ဖြစ်ပုံမှာအဆိုပါ အက္ခရာ(၅)လုံးအနက်မှ တစ်လုံးလုံးအပေါ် (وَقْفٌ) (ခေါ်) ရပ်နားသည့်အတွက် سَاكِنَةٌ ဖြစ်သည့်ပုံကို ခေါ်ဆိုပါသည်။

ဉပမာ- قَعِيْدْ - مَرِيْجْ - مُرِيْبْ - مُحِيْطْ - شِقَاقْ

قَــلْــقَـلَـةٌ ၏ အဆင့် (၃)မျိုး ရှိပါသည်။ ပထမအဆင့်မှာ အမြင့်ဆုံး ဖြစ်သည်။ ယင်းပုံစံမှာ حَـــــرُوْفُ الـقَلْقَلَةِ အနက်မှ အက္ခရာတစ်လုံးလုံးအပေါ် مُشَدَّدَةٌ အဖြစ်နှင့် ရပ်နားသည့်ပုံကို ခေါ်ဆိုပါသည်။ ဉပမာ - الْـحَـقّ

ဒုတိယပုံစံမှာ - سَاكِـنَـةٌ အဖြစ်နှင့် ရပ်နားသည့်ပုံစံဖြစ်ပါသည်။

ဉပမာ - وَعِـيْـدْ

တတိယပုံစံမှာ - မရပ်နားဘဲ سَاكِـنَـةٌ ဖြစ်သည့်ပုံကို ဆိုလိုပါသည်။

ဉပမာ - أَفَـتَـطْـمَـعُـوْنَ

◆ ◆ ◆ ◆ ◆ ◆ ◆ ◆ ◆ ◆ ◆ ◆ ◆ ◆

# ( بَابُ المَــدِّ - မဒ်အကြောင်း)

## تَعْرِيْفُ المَـدِّ - မဒ်ဟူသည်

اَلْمَدُّ - ၏အဓိပ္ပါယ်မှာ لغة အရဗီစကား၌ (الزِّيَادَةُ) သာပိုခြင်းဟူ၍ ဖြစ်ပါသည်။ (١)

اصطلاحًا : သဂျ်ဝီးဒ်ပညာရပ်ဆိုင်ရာ ဝေါဟာရတွင် الـــمـدّ ၏အဓိပ္ပါယ်မှာ حُرُوْفُ المدِّ (၃)ခုအနက်တစ်ခုခုသည် همزة နှင့်ဆုံ၍ဖြစ်စေ (သို့မဟုတ်) ရပ်နားမှုကြောင့် ပေါ်ပေါက်လာသော سُــكُـونٌ နှင့်ဆုံ၍ဖြစ်စေ အသံကို ဆွဲ၍ဖတ်ခြင်းအား ခေါ်ဆိုပါသည်။

ထို့အတူ حـــرفُ اللِّيْـن (၂)ခုအနက် တစ်ခုခု၏နောက်တွင် ရပ်နားသည့်အတွက် ယာယီပေါ်ပေါက်လာသော ဆာကေ့နွန် အက္ခရာ ဖြစ်သည့်အခါ (حـــرفٌ ســاكــنٌ عـارضٌ عـنـد الـوقف) သို့မဟုတ် ထာဝရတည်ရှိနေသော ဆာကေ့နွန် (ســـــاكـــن لازمٌ) ဖြစ်သည့်အခါ အသံကို ဆွဲဖတ်ရခြင်းအားလည်း ခေါ်ဆိုပါသည်။

ဥပမာ - الصَّيْف ○ خَوْف ○ هُمُ الْمُفْلِحُوْنَ ـ رَبِّ الْعَالَمِيْنَ ـ شَدِيْدُ الْمِحَال ○

وَجَآءَ ○ وَمَآ أُنْزِلَ ○ كٓهٰيٰعٓصٓ ○ حٰمٓ ○ عٓسٓقٓ

اَلْــحَبْــسُ وَالْـمَـنْـعُ အရဗီစကား၌ အဓိပ္ပါယ်မှာ (لُغَةً) ၏ الــقَـصْـرُ တားမြစ်ခြင်း၊ ထိန်းချုပ်ခြင်းကို ခေါ်သည်။ (٢)

---

(١) ومنه قوله تعالى "ويُمدِدْكُمْ بِأَمْوَالٍ وَبَنِيْنَ" أيْ يَـزِدْ كُـمْ . (سورة نوح : الآية ١٢)

(٢) الـقصر لغةً : الحبسُ والمنع قال تعالى ( حُورٌ مَقْصُوراتٌ فى الخيام) أى : محبوسات فيها ، واصطلاحاً : إثبات حرف المد أو اللين من غير زيادة عليه ، والقصر هوالأصل لأنه لايتوقف على سبب من أسباب المد. القول السديد ص (١٠٩)

اصطلاحًا : သဂျ်ဝီးဒ်ပညာရပ်ဆိုင်ရာ ဝေါဟာရမှာ حَرْفُ الْمَدِّ သို့မဟုတ် حَرْفُ اللين တို့အား တစ်စုံတစ်ရာအပိုမရှိစေဘဲ အရှိအတိုင်းထားခြင်းကို ခေါ်ဆိုပါသည်။

◆ ◆ ◆ ◆ ◆ ◆ ◆ ◆ ◆ ◆ ◆ ◆ ◆ ◆

## مَـدٌّ နှင့် قَصْرٌ ၏ ဓမ္မစစ်သဘောနှင့် ဝေါဟာရသဘော

مَـــدٌّ ၏ဓမ္မစစ်သဘောသည် حَـرَكَةٌ (၂)ခုမျှပင် အသံပို ပေါ်လွင်ပါက مَـدٌّ ဖြစ်၏။

قَـــصْـــرٌ ၏ ဓမ္မစစ်သဘောမှာကား حَـــرَكَةٌ (၂)ခုမျှပင် အသံပို ပေါ်လွင်ခြင်းမရှိဘဲ မည်သို့မျှ အလျင်း مَـدٌّ မပြုခြင်း ကိုခေါ်၏။

သို့သော် သဂျ်ဝီးဒ်ပညာရပ်ဆိုင်ရာ ဝေါဟာရအရ قَـــصْـــرٌ ဟူသည်မှာ حَـرَكَةٌ (၂)ခုဆွဲဖတ်ခြင်းကိုခေါ်ပြီး၊ مَـــــدٌّ ဟူသည်မှာ حَـرَكَةٌ (၂)ခုထက် حَـرَكَةٌ ပို၍ဆွဲဖတ်ခြင်းကို ခေါ်ဆိုပါကြောင်း ကောင်းစွာမှတ်သားကုန်။ (١)

◆ ◆ ◆ ◆ ◆ ◆ ◆ ◆ ◆ ◆ ◆ ◆ ◆ ◆

---

(١) **اَلْمَدُّ وَالْقَصْرُ حَقِيْقَةً وَاصْطِلاَحًا** :

وحقيقة المدّ تَحَقُّقُهُ بأىّ مقدارولو حركتين ، وحقيقة القصرعدم المدمطلقًا. لكن المصطلح عليه فى علم التجويد كما يستفادمن تعريفى المد والقصر السابقين هومقدارحركتين والمدهو مافوق ذلك ( القول السديد ص ١٠٩ )

## مَقَادِيْرُ الْمُدُوْدِ وَمَعَارِفُ مُصْطَلَحَاتِهَا

**مَــدُّ များ၏ အတိုင်းအတာတို့နှင့် ဝေါဟာရများ၏ သဘောတရားများအကြောင်း**

مَــدُّ عَارِضْ နှင့် مَــدُّ اللين العارضُ တို့တွင် မَدُّ ပြုလုပ်ရမည့်ပုံစံ (၃)မျိုးရှိပါသည်။ ၎င်းတို့မှာ (၁) طُوْلٌ (၂) تَوَسُّطٌ (၃) قَصْرٌ တို့ဖြစ်သည်။

مــدُّ عَـارِضْ တွင် အကောင်းဆုံး အကောင်အထည်ဖော်ရမည့်အချက်မှာ (၁) طُولٌ (၂) تَوَسُّطٌ (၃) قَصْرٌ တို့ ဖြစ်ပါသည်။

مَدُّ اللّين العارضُ တွင် အဆင့်ဆင့်အကောင်အထည်ဖေါ်ရပုံမှာ -

(၁) قَصْرٌ (၂) تَوَسُّطٌ (၃) طُوْلٌ တို့ဖြစ်ပါသည်။

قَصْرٌ ـ تَوَسُّطٌ ـ طُوْلٌ ဟူသော ဝေါဟာရတို့၏ အလိုသဘောမှာ -

طُوْلٌ - ဟူသည်မှာ حَرَكَةٌ (၆)ခု၏ အတိုင်းအတာကို ခေါ်ပါသည်။

تَوَسُّطٌ - ဟူသည်မှာ حَرَكَةٌ (၃)ခု၏ အတိုင်းအတာကို ခေါ်ပါသည်။

قَـصْرٌ - ဟူသည်မှာ حَرَكَةٌ (၂)ခု၏ အတိုင်းအတာကို ခေါ်ဆိုပါသည်။ مَــدُّ طَبِيْعِيٌّ သည် قَصْرٌ ဟူသော ဝေါဟာရအရ ဆောင်ရွက်မှုနှင့် အညီအမျှပင် ဖြစ်ပါသည်။

مَـدُّ لاَزِمٌ (၄)မျိုးလုံးတွင် အများပညာရှင်များ၏ အဆိုအရ - (طُـوْلٌ عــلـى التســاوى) တပြေးညီ طُـوْلٌ ကို အကောင်အထည်ဖော်ရမည် ဖြစ်ပါသည်။ (فوائد مكّيه ص ٢٢ ـ ٢٣)

حُرُوْفُ الْمَـدِّ (၃)လုံးရှိပါသည်။ ၎င်းတို့မှာ- ( ا ) အလျင် فَـتْحَـةٌ ــَـ ရှိပုံ၊ ( وْ ) အလျင် ضَـمَّـةٌ ــُـ ရှိပုံနှင့် ( ىْ ) အလျင် كَسْـرَةٌ ــِـ ရှိပုံတို့ ဖြစ်ပါသည်။ ဥပမာ - نُـوْحِـيْـهَا

مَـدٌّ ၏အမျိုးများမှာ (၈)ခုရှိသည်။ (၁) طَبِـيْـعِيٌّ (၂) مُـتَّـصِلٌ (၃) مُـنْـفَصِلٌ (၄) صِلَـةٌ (၅) بَـدَلٌ (၆) فَـرْقٌ (၇) عَارِضٌ (၈) لَازِمٌ တို့ဖြစ်ကြပါသည်။

(၁) مَـدٌّ طَبِيْعِـيٌّ ဟူသည်မှာ حَـرْفُ الْمَـدِّ တစ်ခုခု၏နောက်တွင် هَمْزَةٌ ـٓ (သို့မဟုတ်) سُـكُـوْنٌ ـْ မလာရှိသောပုံစံကိုခေါ်သည်။ ဥပမာ- أَ تُــجَادِلُـوْنَـنِـىْ ဖော်ပြပါ مَـدٌّ အား حَـرَكَـةٌ (၂)ခုဆွဲ၍ ဖတ်ရမည်။ ☆حَـرَكَـةٌ တစ်ခု၏အတိုင်းအတာမှာ မနှေးမမြန်ဘဲ အလယ်အလတ်ပုံစံဖြင့် ပိတ်ထားသော လက်ချောင်းအား ဖွင့်ခြင်း (သို့မဟုတ်) ဖွင့်ထားသောလက်ချောင်းအား ပိတ်ခြင်းကို ခေါ်ပါသည်။(၁)

(၂) مَـدٌّ مُـتَّصِلٌ ဟူသည်မှာ حَرْفُ الْمَدِّ ၏နောက်တွင် هَـمْزَةٌ သည် စာလုံးတစ်ခုတည်းတွင် တွဲလျှက်ကျရောက်ပါက مَـدٌّ مُتَّصِلٌ ဟုခေါ်ပါသည်။ အဆိုပါ مَـدٌّ အား حَرَكَةٌ (၄)ခု (သို့မဟုတ်) (၅)ခု ဆွဲ၍ဖတ်ရမည်။

ဥပမာ- اَلْمَلآئِكَةُ ـ السَّرآ ئِرُ ـ هَنِيٓئًا ـ يَشَـآءُ ـ السُّفَهَآءُ

قُرُوْٓءٍ ـ بِالسُّوٓءِ ـ النَّسِىٓءُ ـ ـ يُضِيٓءُ

(၃) مَـدٌّ مُنْـفَـصِـلٌ ဟူသည်မှာ حَـرْفُ الْـمَـدِّ သည် စာလုံးတစ်ခုတွင် ဖြစ်ပြီး هَــمْـزَةٌ သည် နောက်မှလာသော အခြားစာလုံးတစ်ခု၏ အစအက္ခရာအဖြစ် လာရှိသောပုံစံကို ခေါ်ဆိုပါသည်။ အဆိုပါ مَــدٌّ အား قَـصْـرٌ ဖတ်သော ပညာရှင်များက حَـرَكَةٌ (၂)ခုဖတ်ကြသည်။ ထို့အတူ تَـوَسُّـطٌ ဖတ်သော

---

(١) وحـكم هذا المد ـ أنه يمد وجوبًا بمقدار ألفٍ ، والأَلِفُ : حركتان، لايزادعليهما ولاينقص عـنهـما.قال العلماء: والحركة بمقدار قبض الإصبع أو بسطه بحالٍ وسَطٍ بين الإسراع والتأنى. (أحكام قراءة القرآن الكريم ص ٢١١.)

ပညာရှင်များက حَـرَكَـةٌ (၃)ခု (သို့မဟုတ်) (၄)ခု ဖတ်ကြသည်။ ဥပမာ-

بِـمَآأُنْـزِلَ ـ فَلَـمَّآ أَضَاءَتْ ـ قُـوْلُـوْٓا آمَنَّابِاللّٰهِ ـ قُـوْٓا أَنْـفُسَكُمْ ـ فِىٓ أُمِّهَا رَبِّىٓ أَعْلَمُ ـ يٰٓأَيُّـهَا ـ هٰٓـأَنْـتُمْ ـ وَلَـهٗٓ أَسْـلَـمَ ـ وَأَمْـرُهٗٓ إِلى اللّٰهِ ـ يُـؤَدِّهٖٓ إِلَـيْكَ بِهٖٓ إِلَّآ أَنْ يُحَاطَ بِكُمْ.

(၄) صِـلَـةٌ ဖြစ်သည်။ ယင်း صِـلَـةٌ ကိုနားလည်နိုင်ရန် ဦးစွာပထမ ဥပမာကို လေ့လာဖတ်ရှုတ်မှတ်သားကုန်။

ဥပမာ (၁) إِنَّـهُ ကို إِنَّـهُوْ အသံဖြင့်ဖတ်ပုံ။

ဥပမာ (၂) بِـهِ ကို بِـهِىْ အသံဖြင့်ဖတ်ပုံ။

ဥပမာ (၃) عِـنْـدَهُوْ إِلَّا ကို عِـنْـدَهُ إِلَّا بِـإِذْنِهٖ အသံဖြင့်ဖတ်ပုံ။

အထက်ပါဥပမာများကို လေ့လာခြင်းအားဖြင့် အကြမ်းဖျင်းပုံစံ(၂)မျိုး တွေ့ရမည်။ တစ်မျိုးမှာ ضَـــمَّـةٌ ပါသော هــ ကို و နှင့် ပေါင်းဖတ်ပုံ၊ အခြား တစ်မျိုးမှာ كَـسْـرَةٌ ပါသော هـ ကို ى နှင့် ပေါင်းဖတ်ပုံတို့ ဖြစ်ပါသည်။

အဆိုပါပုံစံမျိုးတို့ကို صِـلَـةٌ (သို့မဟုတ်) مَـدُّ الصِّـلَـةِ ဟု ခေါ်ပါသည်။

مَـدُّ الصِّـلَـةِ (၂)မျိုးရှိသည်။ (၁) صِـلَـةٌ قَـصِـيْـرَةٌ (၂) صِـلَـةٌ طَوِيْـلَـةٌ တို့ဖြစ်သည်။

(၁) صِـلَـةٌ قَـصِـيْـرَةٌ ဟူသည်မှာ လွန်ခဲ့သောဥပမာ (၁)နှင့် (၂)တွင် တင်ပြခဲ့သောပုံစံမျိုးကို ခေါ်သည်။ အကြောင်းမှာ ضَـمَّـةٌ ပါသော هـ ကို و နှင့် ပေါင်းသည့်ပုံစံ၌ ထို့အတူ كَسْـــرَةٌ ပါသော هــ ကို ى နှင့် ပေါင်းသည့်ပုံစံများ တွင် ယင်း هـ ၏နောက်မှ အမြဲတည်ရှိနေသော هَـــمْـزَةٌ တစ်ခုခု မလာရှိသည့် အတွက်ကြောင့် ဖြစ်ပါသည်။ အဆိုပါ صِـلَـةٌ قَـصِـيْـرَةٌ ကို طَـبِـيْـعِـىٌّ ကဲ့သို့ حَـرَكَـةٌ (၂)ခု ဆွဲ၍ ဖတ်ရမည်။

(၂) صِلَةٌ طَوِيْلَةٌ ဟူသည်မှာ ضَمَّةٌ ပါသော هـ ကို و နှင့်ပေါင်းသည့်ပုံစံ၌ ထို့အတူ كَسْرَةٌ ပါသော هـ ကို ى နှင့်ပေါင်းသည့်ပုံစံများတွင် ယင်း هـ ၏နောက်မှ အမြဲတည်ရှိနေသော هَمْزَةٌ တစ်ခုခု လာရှိသောပုံစံမျိုးကိုခေါ်ပါသည်။ ဥပမာ عِنْدَهُ إِلَّا ကို عِنْدَهُ إِلَّا بِإِذْنِهِ အသံဖြင့်ဖတ်ပုံ -

يُؤَدِّهِ إِلَيْكَ - وَأَمْرُهُ إِلَى اللّٰهِ - وَلَهُ أَسْلَمَ - بِهِ إِلَّا أَنْ يُحَاطَ بِكُمْ

စသည့်ပုံစံမျိုးတို့ဖြစ်သည်။

مَدٌّ مُنْفَصِلٌ သည် (အသံကိုအကြောင်းပြု၍) صِلَةٌ طَوِيْلَةٌ နှင့်ဥပဒေအပိုင်းမှာ တူညီနေသည့်အတွက် ၎င်းကိုလည်း مَدٌّ مُنْفَصِلٌ ကဲ့သို့ဆွဲ၍ ဖတ်ရမည်။ သို့ပါ၍ صِلَةٌ طَوِيْلَةٌ ၏ ဥပမာများတွင် مَدٌّ مُنْفَصِلٌ ၏ ဥပမာများကိုလည်း တွေ့ရပေလိမ့်မည်။

(၅) مَدُّ بَدَلٍ ဟူသည်မှာ حَرْفُ الْمَدِّ ၏အလျင် စာလုံးတစ်ခုတည်းတွင် هَمْزَةٌ လာရှိပြီး ယင်း حَرْفُ الْمَدِّ ၏နောက်တွင် هَمْزَةٌ (သို့မဟုတ်) سُكُوْنٌ မလာရှိသောပုံစံကို ခေါ်ပါသည်။ ဥပမာ- آمَنَ ، آمَنُوْا ، إِيْمَانًا ، أُوْتِيَ ، أُوْتُوْا ، حَرَكَةٌ - (၂)ခုဆွဲ၍ ဖတ်ရမည်။

(၆) مَدُّ فَرْقٍ ဟူသည်မှာ မေးခွန်းဝါကျ စတင်ပုံနှင့် ရိုးရိုးသတင်းပေးဝါကျစတင်ပုံတို့၏ အကြားတွင် ကွဲပြားခြားနားစေရန်အတွက် အသုံးပြုထားသော مَدٌّ ကို ခေါ်သည်။ အဆိုပါ مَدٌّ သည် နေရာ(၆)ခုတွင်လာရှိသည်။

ဥပမာ- آلذَّكَرَيْنِ (سُوْرَةُ الأنعام : الآية ١٤٣/١٤٤) တွင် (၂)နေရာ

ဥပမာ - آللّٰهُ (سورةُ يُوْنُسَ :الآية ٥٩ ، وَالنَّمْلِ : الآية ٥٩) တွင်(၂)နေရာ

ဥပမာ- آلْآنَ (سورةُ يُوْنُسَ : الآية ٥١ ، ٩١)တွင် (၂)နေရာမှာ လာရှိပါသည်။

ဖော်ပြပါ မျှားအား حَـرَكَـةٌ (၆)ခုဆွဲ၍ ဖတ်ရမည်။

(၇) حَـرْفُ اللّيْـنِ (١) (သို့မဟုတ်) حَـرْفُ الْمَـدِّ ဟူသည်မှာ مَـدٌّ عَارِضٌ (၇) တစ်ခုခုတို့၏နောက်တွင် وَقْـــــفٌ (ခေါ်) ရပ်နားသည့်အတွက်ကြောင့် سُـكُـوْنٌ ပေါ်ပေါက်ကြုံကြိုက်လာပါက مَـدٌّعَارِضٌ ဖြစ်လေသည်။

ဥပမာ - مَتَابُ - اَلصَّيْفُ - مِنْ خَوْفُ - نَسْتَعِيْنُ - အဆိုပါ مَـدٌّ အား حَـرَكَـةٌ (၆)ခု (၅)ခု (၄)ခုမှ (၂)ခုအထိဆွဲ၍ဖတ်ရမည်။

(၈) حَـرْفُ اللّيْـنِ (သို့မဟုတ်) حَـرْفُ المَـدِّ ဟူသည်မှာ مَـدٌّ لاَزِمٌ (၈) တစ်ခုခု၏နောက်တွင် (ဆက်ဖတ်သည့်အခါ၌ဖြစ်စေ (သို့မဟုတ်) ရပ်နားသည့်အခါ၌ဖြစ်စေ) အမြဲတည်ရှိနေသောမူလ سُـــكُـــوْنٌ လာရှိပါက مَـــدٌّ لاَزِمٌ ဖြစ်လေသည်။ ဥပမာ - أَتُحَاجُّوْنِّى - طٰسٓمٓ .

مَـدٌّلاَزِمٌ (၄)မျိုးရှိသည်။ (၁) كَلِمِىٌّ مُثَقَّـلٌ (၂) كَلِمِىٌّ مُخَفَّفٌ (၃) حَـرْفِىٌّ مُثَقَّـلٌ (၄) حَـرْفِىٌّ مُخَفَّفٌ တို့ဖြစ်သည်။

(၁) كَلِـمِـىٌّ مُـثَـقَّـلٌ (၁) ဟူသည်မှာ حَـرْفُ مَـدٍّ နှင့်တကွ (အမြဲတည်ရှိနေသော မူလ سُـكُـوْنٌ)သည် စာလုံးတစ်ခုတည်းတွင် ဆုံစည်းပြီး သကုန် ပါသော အက္ခရာ၏နောက်တွင် လာရှိသောအက္ခရာဖြင့် إِدْغَـامٌ ဖြစ်သောပုံစံကို ခေါ်ပါသည်။ ဥပမာ- اَلطَّآمَّـةُ - اَلصَّآخَّـةُ - دَآبَّـةُ - أَتُحَآجُّوْنِّىْ ဖော်ပြပါ مَـدٌّ ကို حَـرَكَـةٌ (၆)ခုဆွဲ၍ ဖတ်ရမည်။

---

(١) حُرُوْفُ اللّيْـنِ ဆိုသည်မှာ ىُ အလျှင် ـَـ فَتْحَـةٌ ရှိပုံနှင့် وْ အလျှင် ـَـ فَتْحَـةٌ ရှိပုံတို့ကို ဟုခေါ်ပါသည်။ ဥပမာ- صَيْفٌ - خَوْفٌ ဤသည်ကို مدّ اللين العارضُ ဟုလည်းခေါ်ကြသည်။

၂။ كَلِمِيٌّ مُخَفَّفٌ ဟူသည်မှာ حَرْفُ المَدِّ နှင့်တကွ (အမြဲတည်ရှိနေသော မူလ سُكُوْنٌ) သည် စာလုံးတစ်ခုတည်းတွင် ဆုံစည်းပြီး သကွန် ပါသောအက္ခရာ၏နောက်တွင် လာရှိသော အက္ခရာဖြင့် إِدْغَامٌ မဖြစ်သောပုံစံကို ခေါ်သည်။ ဥပမာ - آلاَنَ ဖော်ပြပါ مَدٌّ ကို حَرَكَةٌ (၆)ခု ဆွဲ၍ ဖတ်ရမည်။

(၃) حَرْفِيٌّ مُثَقَّلٌ ဟူသည်မှာ حَرْفُ الْمَدِّ နှင့်တကွ (အမြဲတည်ရှိနေသော မူလ سُكُوْنٌ) သည် အက္ခရာတစ်ခုတည်းတွင် ဤသို့ဆုံစည်းမည်။ ယင်းအက္ခရာအား تَهَجِّىْ (ခေါ်)''ဗျည်းအက္ခရာ ဖတ်နည်းအတိုင်း'' ဖတ်ရွတ်သည့်အခါ အက္ခရာ သုံးလုံးပုံပေါ်ပေါက်လာပြီး အလယ်အက္ခရာသည် مَدٌّ ဖြစ်လျက် ၎င်းသုံးလုံးပုံရှိသည့်ပုံစံ၏ နောက်ဆုံးအက္ခရာသည် မိမိနောက်တွင် လာရှိသော အက္ခရာတွင် إِدْغَامٌ ဖြစ်မှုလည်း ကြုံကြိုက်လာသောပုံစံကို ခေါ်ဆိုပါသည်။ ဥပမာ- الٓمٓ - لٓ ၌ (لاَمْ) ၎င်းနောက် طٰسٓمٓ ၌ سٓ (سِيْنْ) ကို ဆိုလိုခြင်းဖြစ်သည်။

(၄) حَرْفِيٌّ مُخَفَّفٌ ဟူသည်မှာ حَرْفُ المَدِّ နှင့်တကွ (အမြဲတည်ရှိနေသော မူလ(سُكُوْنٌ)သည် အက္ခရာတစ်ခုတည်းတွင် ဤသို့ ဆုံစည်းမည်။ ယင်းအက္ခရာအား تَهَجِّىْ (ခေါ်) ''ဗျည်းအက္ခရာဖတ်နည်း အတိုင်း'' ဖတ်ရွတ်သည့်အခါ အက္ခရာသုံးလုံးပုံ ပေါ်ပေါက်လာပြီး အလယ်အက္ခရာသည် مَدٌّ ဖြစ်လျက် ၎င်းသုံးလုံးပုံရှိသည့်ပုံစံ၏ နောက်ဆုံး အက္ခရာသည် မိမိနောက်တွင်လာရှိသောအက္ခရာတွင် إِدْغَامٌ ဖြစ်မှု မကြုံကြိုက်သောပုံစံကို

ခေါ်ဆိုပါသည်။

ဥပမာ- (صَادْ) صٓ - (سِيْنْ) يٰسٓ - (نُوْن) نٓ -ဥပမာ

الـمدّ اللازم الحرفى (၂)မျိုးလုံးသည် စူရာများ၏ အစတွင်သာ လာလေ့ရှိပါသည်။ ယင်း مَـدُّ ၏အက္ခရာများမှာ (၈)လုံးရှိပါသည်။ အဆိုပါ အက္ခရာများကို ပညာရှင်များက ဤသို့ စုစည်းထားကြသည်။ (سَنَقُصُّ عِلْمَكَ)

السين ـ النّون ـ القاف ـ الصاد ـ العين ـ اللام ـ الميم ـ الكاف

السين ၏ ဥပမာ - أَوّلُ الشُّعَرَاء والقصص (طٰسٓمٓ)، أوّل النمل (طٰسٓ)

أوّل الشورى ( حمٓ عٓسٓقٓ )

النون ၏ ဥပမာ - فى سورة القلم ( نٓ والقَلَم )

القاف ၏ ဥပမာ- سورةق (قٓ) ၏အဖွင့်နှင့် الشورى(عٓسٓقٓ) ၏အဖွင့်တွင်

الصاد ၏ ဥပမာ- سورة مريم ، سورةص ، سورة الأعراف တို့၏ အဖွင့်တွင်

الْعَيْنُ ၏ ဥပမာ- مريم နှင့် الشورى တို့၏အဖွင့်တွင်

اللّام ၏ ဥပမာ- يوسف ـ هود ـ يونس ـ الأعراف ـ آل عمران ـ البقرة

السجدة နှင့် لقمان ـ الروم ـ العنكبوت ـ الحجر ـ إبراهيم ـ الرعد

တို့၏ အဖွင့်များတွင် လာရှိပါသည်။

الميم ၏ ဥပမာ- القصص ـ الشعراء ـ الرعد ـ الأعراف ـ آل عمران ـ البقرة

السجدة ـ لقمان ـ الروم ـ العنكبوت တို့၏အဖွင့်များတွင် ထို့အတူ (الحواميم السبع) စူရာ (၇) အဖွင့်လာရှိထားသော سورة حٰمٓ ဖြင့်

တွင်ရှိသည်။

الكاف ၏ ဥပမာ -سورة مريم အား အစပြုသောအက္ခရာဖြစ်သည်။

مَـــدٌّ (၄)မျိုးလုံး၏ ပညတ်ချက်မှာ حَـــرَكَةٌ (၆)ခုရှိသော الـــمـــدّ الـــلازم မျိုးဆွဲဖတ်ရန် واجب တာဝန်ဖြစ်သည်။ သို့သော် (၂)နေရာတွင် مَـــدٌّ မပြုရပေ။ ယင်း(၂)နေရာမှာ (၁) اَلْيَاءُ - ဥပမာ آل عـمران ၏အစတွင် الٓمٓ ကို اللّٰهُ နှင့် ဆက်ဖတ်သည့်အခါ اَلِفْ لَآمْ مِّيْـــمَ اللّٰهُ ဟု ဖတ်ရမည်။ ယင်း يَـــــاءٌ နှင့် ပါတ်သက်၍ နည်းလမ်း(၂)ခုရှိပေသည်။

(၁) နည်းလမ်းမှာ مـدٌّ ကို (طول) ဖြင့်ဖတ်ခြင်း။

(၂) နည်းလမ်းမှာ قَـــصْـــرٌ ဖြင့်ဖတ်ခြင်းတို့ ဖြစ်လေသည်။ (၂)မျိုးစလုံး ဖတ်ပိုင်သည်။

(၂) الشورى ، سورة مريم အဖွင့်တွင် كٓهٰيٰعٓصٓ နှင့် حٰمٓ عٓسٓقٓ တို့တွင်ပါရှိနေသော (عَيْنٌ) ဖြစ်သည်။ ယင်း عَيْنٌ နှင့် ပါတ်သက်၍ أهلُ الأَدَاءِ ကျွမ်းကျင်သောပညာရှင်များအကြား အယူအဆကွဲပြားမှုရှိသည်။

(၁) အချို့က طُوْلٌ ဖတ်ရမည့်အက္ခရာအဖြစ် ဆုံးဖြတ်ခဲ့ကြသည်။

(၂) အချို့ကမူ تَوَسُّطٌ ကို ရွေးခဲ့ကြသည်။

(၃) အချို့ကမူ الحروف الصحيحة အဖြစ် သတ်မှတ်ခဲ့ကြပြီး قصر ဖတ်ရန်ဆုံးဖြတ်ခဲ့ကြသည်။ ကြည့်-(أحكام قراءة القرآن الكريم ص ٢٢٠ - ٢٢١)

**မှတ်ချက်။ ။** عينُ مريم နှင့် عين الشورى တွင် قصر ဖတ်နိုင်သည်ဟူသည်မှာ ضعيف အထောက်အထားအားနည်းသော အဆိုဖြစ်သည်။ ထို့အပြင် طول ဖတ်ခြင်းသာ အကောင်းဆုံး (أفضل وأولى) ဖြစ်သည်။ ( ကြည့် - فوائد مكيه ص ٢٢ )

သို့သော် عين الشورى နှင့် عين مريم တွင် ဖတ်ပိုင်ခွင့်ရှိသော အနေအထားသည် طول ، تـوسّـط နှင့် قَـصرٌ တို့ဖြစ်သည်။ ထို့အပြင် အများ قرّاء (ကေရာအသ်ပညာရှင်များ)၏ရွေးချယ်ချက်သည် طول နှင့် توسّط သာဖြစ်သည်။(١)

**အချုပ်မှတ်သားရန်**

سُورةٌ များ၏အစများတွင် အက္ခရာတို့ဖြင့် အစပြုသောအက္ခရာများ၏ အရေအတွက်မှာ (၁၄)လုံးရှိပါသည်။ ၎င်းတို့ကို ပညာရှင်များက အောက်ပါအတိုင်း စုစည်းထားကြသည်။

(سَنَقُصُّ عِلْمَكَ ، حَيٌّ طَاهِرٌ) غير الألف ( سَنَقُصُّ عِلْمَكَ ، حَيٌّ طَهُرَ )

(نَصُّ حَكِيْمٍ قَاطِعٌ لَهٗ سِرٌّ) နှင့် (صِلْهُ سُحَيْرًا مَنْ قَطَعَكَ)

ထို(၁၄)လုံး၏ ဖတ်နည်းမှာ (၄) မျိုးရှိပါသည်။

(၁) حَـــــرَكَةٌ (၆)ခုဆွဲ၍ဖတ်ရမည့် مَـــدٌّ لازمٌ ၏အမျိုး၊ ဤသည်ကို (سنقصّ علمك) ماعدا (عين) منها (သို့မဟုတ်) غير العين (كَـمْ عَسَلٍ نَقَصَ) ဟု စုစည်းထားကြသည်။ အထက်ပါအမျိုးတွင် ع မပါဝင်ပါ။

(၂) إِشْبَاعٌ ، تَـوَسُّطٌ နှင့် قَصْرٌ တို့ဖတ်ပိုင်ခွင့်ရှိသော အမျိုးဖြစ်သည်။ ထိုအက္ခရာသည် عين الشورى နှင့် عين مريم ဖြစ်သည်။

---

(١) وقد اختلف أهل الأداء فى إشباعها وتوسّطها وقصرها، فمنهم من أجراها مجرى حرف المد فأشبع مدّها لا لتقاء الساكنين، قال فى (النشر) وهذان الوجهان هما المختاران لجميع القرّاء . (أحكام قراءة القرآن الكريم ٢٢١ ) وفضّل العلماءُ الاشباعَ ، ووجه تفضيله على غيره أنه قياس مذهب أهل الأداء فى الفصل بين الساكنين ، وأن فيه مجانسة لماجاوره من المدوهو (صاد) فى أوّل مريم و ( سين) فى أول الشورى. ( المرجع السابق ص ٢٢٢ ).ومايجوز فيه الوجهان وهو العين فقط والطول أخص ( مفتاح التجويد للمتعلم المستفيد ص ٨٣ ). معنى مايجوزفيه الوجهان:مايُختارفيه الوجهان(المؤلّف)

(၃) مَـدٌّ طبـيعىٌّ ဖတ်ရမည့်အမျိုးဖြစ်သည်။ ယင်းအက္ခရာတို့ကို (حَىٌّ طَـهُـرَ)တွင် စုစည်းထားသည်။

(၄) လုံးဝ مَدٌّ မပြုရသောအမျိုးဖြစ်သည်။ ယင်းအက္ခရာသည် أَلِفٌ ဖြစ်သည်။(၁)

# باب اللَّحْنِ

## "နည်းစနစ်မှန်မှ သွေဖည်ခြင်းအကြောင်း"

အရဗီစကား၌ اللَّـحْنُ ၏အဓိပ္ပါယ်သည် များစွာရှိသည်။ သို့သော် ဤနေရာတွင် ဆိုလိုသည့်အဓိကအဓိပ္ပါယ်မှာ الميل عن الجادّة فى القر اءةِ ، والانحراف عن الصواب فيها ဖတ်ရွတ်ရာ၌ အလယ်အလတ်လမ်းစဉ် နည်းစနစ်မှန်မှ သွေဖည်တိမ်းစောင်းခြင်းကို ခေါ်ဆိုသည်။ اللَّحْنُ နှစ်မျိုးရှိသည်။

(၁) اللَّحْنُ الجَلِىُّ (၂) اللَّحْنُ الخَفِىُّ

(၁) اللَّحْنُ الجَلِىُّ ဟူသည်မှာ စာလုံးများတွင်သဒ္ဒါ၊ၝင်းစာပေဆိုင်ရာ ဥပဒေများ ပျက်ပြားခြင်းနှင့် ဖတ်ရွတ်မှု စံထားနည်းများ ပျက်ပြားခြင်းကို ခေါ်ဆိုပါသည်။

---

(١)ووجه مدّ الراء مدًّاطبيعيًا هو كون هجائها على حرفين فقط، ولم يقع بعد حرف المدّ سكونٌ لازم،(أحكام قراءة القرآن الكريم ص ٢٢٣)

والحاصل أن مجموع الحروف فى أوائل السور أربعة عَشَرَحرفًا، وهى على أربعة أقسامٍ.

١ــ القسم الأوّل منها: يمد مداً لازمًا بمقدار ستّ حركات، وهو حروف (سنقصّ علمك) ماعدا (عين ) منها.

٢ـ القسم الثانى : يجوزفيه الإشباعُ والتوسّط والقصر وهو (عين) فاتحتي مريم والشورى.

٣ـ القسم الثالث : يمد مدًّا طبيعيا وهو حروف (حَيٌّ طَهُرَ)

٤ـ والقسم الرّابع لايمد أصلاً وهو ألفٌ ، لأنّ وضعها على ثلاثة أحرف ليس وَسَطُهَا حرفَ مدٍّ ساكنًا.

ဤကဲ့သို့ ပျက်ပြားခြင်းသည် နှစ်မျိုးရှိသည်။

(၁) بِـــنْيَةُ الْــكَــلِـمَةِ (ခေါ်)စာလုံးရုပ်သဏ္ဍာန်တွင် ဖွဲ့စည်းထားသော အက္ခရာများအား ဖတ်ရွတ်သူက ပြောင်းလဲပစ်ခြင်း၊ဥပမာ- ط ကို ض နှင့် ذ ကို ز နှင့် ث ကို س နှင့် စသဖြင့် ဤနည်းတူပြောင်းလဲမှုများကိုဆိုသည်။

(၂) حَـرَكَـاتُ الْـكَلِمَةِ စာလုံးတွင်ရှိသော သရများကို ပြောင်းလဲခြင်း၊ စ၊လယ်၊ဆုံး မည်သည့်သရကိုမဆို ပြောင်းသည်ဖြစ်စေ၊ فَتْـحَةٌ ကို كَسْـرَةٌ နှင့် ပြောင်းမည်၊ (သို့) حَرَكَةٌ ضَمَّةٌ ကို فَتْحَةٌ နှင့်ပြောင်းမည်၊ (သို့) حَرَكَةٌ (၃)ခုအနက်မှ တစ်ခုခုအား سُـكُوْنٌ နှင့်ပြောင်းမည်၊ စသဖြင့် ဤနည်းတူ ပြုလုပ်ခြင်းများသည် စာလုံးတွင်ရှိသော သရများကိုပြောင်းလဲခြင်းတွင် အကျုံးဝင်ပေသည်။ အဆိုပါ ပုံစံ (၁)နှင့်(၂)တွင်ဖော်ပြခဲ့သော အမှားကျူးလွန်မှုမျိုးတို့ကြောင့် အဓိပ္ပါယ်ပြောင်းသည်ဖြစ်စေ၊ မပြောင်းသည်ဖြစ်စေ ဤအမှားကိုကျူးလွန်ခြင်းသည် အကယ်၍ အတလိ ကျူးလွန်ခြင်းဖြစ်ခဲ့ပါမူ အစ္စလာမ့်ပညာရှင်အားလုံးက တညီတညွတ်တည်း (حَـــرَامٌ) ဟရာမ် ဖြစ်သည်ဟု ဆုံးဖြတ်ကြသည်။ ထို့အတူ ဤသို့ကျူးလွန်သူအား အရေးယူရမည်ဟုလည်း ဆုံးဖြတ်ကြသည်။ အကယ်၍ မေ့လျော့၍ဖြစ်စေ၊ (သို့) မသိ နားမလည်၍ဖြစ်စေ ကျူးလွန်မိပါက (حَرَامٌ) ဟရာမ်မဖြစ်ပေ။

အဓိပ္ပါယ်ပြောင်းသွားစေသော لَحْنٌ جَلِيٌّ ၏ ဥပမာ-

﴿لَعَلِّيْ أَعْمَلُ صَالِحًا فِيْمَا تَرَكْتُ﴾ المؤمنين (١٠٠) ကို تَرَكْتَ ဟုဖတ်ခြင်း။

အဓိပ္ပါယ်မပြောင်းသော لَحْنٌ جَلِيٌّ ၏ ဥပမာ-

﴿إن اللّهَ على كُلِّ شَيْءٍ قَدِيْرٌ﴾ البقرة (٢٠) ကို إِنَّ اللّٰهُ ဟုဖတ်ခြင်း။

ဤမှားယွင်းမှုမျိုးကို لَـحْـنٌ جَـلِـيٌّ ဟု အမည်မှည့်ခေါ်ရခြင်းမှာ- قُـرَّاءُ

သဂျ်ဝီးဒ်ပညာရှင်များသာမက လူသာမန်တို့ထံတွင်ပင် အဆိုပါမှားယွင်းမှုသည် မကွယ်ဝှက်ဘဲ ပေါ်လွင်ထင်ရှားနေခြင်းကြောင့် ဖြစ်သည်။

اللَّحْنُ الجَلِيُّ ပုံစံ(၇)မျိုးရှိပါသည်။

(၁) အက္ခရာတစ်ခုအား အခြားအက္ခရာဖြင့် ပြောင်းခြင်း၊ (၂) حَـــرَكَةٌ ပါသော အက္ခရာအား سُكُوْنٌ ဖြင့်ဖတ်ခြင်း၊ (၃) سُكُوْنٌ ပါသောအက္ခရာအား حَرَكَةٌ ဖြင့် ဖတ်ခြင်း၊ (၄) حَرْفُ مَدٍّ အား حَرَكَةٌ (၅) حَرْفُ مَدٍّ ဖြစ်လာရအောင်ဆွဲဖတ်ခြင်း၊ များကို ဖြုတ်ဖတ်ခြင်း၊ (၆) تَشْدِيْدٌ ပါသောအက္ခရာမှ تَشْدِيْدٌ ကို ဖြုတ်ဖတ်ခြင်း၊ (၇) تَشْدِيْدٌ မပါသောအက္ခရာအား تَشْدِيْدٌ ဖြင့်ဖတ်ခြင်းတို့ဖြစ်ပါသည်။(١)

(၂) الـلَّـحْـنُ الـخَفِيُّ ဟူသည်မှာ (عـلـم التـجـويد)(ခေါ်) သဂျ်ဝီးဒ်ပညာ၏ ဥပဒေများကို ချိုးဖောက်ခြင်းဖြင့် စာလုံးများတွင် ပေါ်ပေါက်လာသော အမှားအယွင်း ကိုခေါ်သည်။ သို့သော် ဤသို့မှားယွင်းမှုတွင် အဓိပ္ပါယ်၊ သဒ္ဒါနှင့် စာပေအသုံး အနှုန်းများ ပျက်ပြားမှုမရှိပေ။ ဥပမာ - إِدْغَـــامٌ (သို့မဟုတ်) إِخْــفَــاءٌ တာဝန် ရှိသည်ကို إِظْهَــارٌ ပြုလုပ်ခြင်း၊ تَـفْـخِيْـمٌ တာဝန်ရှိသည်ကို تَــرْقِيْقٌ ပြုလုပ်ခြင်း၊ (သို့မဟုတ်) ယင်းနှင့်ဆန့်ကျင်ဘက် လုပ်ခြင်း၊ مَـدٌّ ကို قَـصْـرٌ ၊ قَصْـرٌ မَـدٌّ ကို အဖြစ် ဆန့်ကျင်ဘက်လုပ်ခြင်း၊ စာလုံးတစ်လုံး၏ နောက်ဆုံးအက္ခရာတွင် ရပ်နားရာ၌ الـــوَقْفُ بَــالـــرَّوْمِ ပြုလုပ်သည်ဟူ၍လည်း မရှိဘဲ حَـــرَكَةٌ အပြည့်နှင့်ရပ်ခြင်း စသည့်နည်းတူ မှားယွင်းမှုများကို ဆိုလိုသည်။ ဤသို့ မှားယွင်းမှုနှင့်ပတ်သက်၍

---

(١)صـورِاللَّحْنِ الجَلِيِّ سبعة ، وهي:(١)إِبْدَالُ حَرْفٍ بِحَرْفٍ (٢)إِسْكَانُ الْمُتَحَرِّكِ (٣)تَحْرِيْكُ السَّـاكِـنِ (٤) إِشْبَـاعُ الحَرَكَةِ بِحَيْثُ يَتَوَلَّدُ مِنْهَاحَرْفُ مَدٍّ (٥) حَذْفُ أَحْرُ فِ المَدِّ (٦)تَخْفِيْفُ المُشَدَّدِ (٧)تَشْدِيْدُ المُخَفَّف. (أحكام قراءة القرآن الكريم ص ٣٥)

(شَرِيْعَةٌإِسْلاَمِيَّةٌ ) ရှရီအသ်တရားတော်လာ အမိန့်ကို ---

عـلـى بـن سـلـطان محمدالقاری (ခေါ်) မွလ္လာအလီကာရီသခင်က အရေးယူ ခံရရန် စိုးရိမ်ရသည့် မှားယွင်းမှုမျိုးဖြစ်သည်ဟု ဆိုသည်။

مُحَمَّدُ بْنُ بِيْرْعَلِيِّ (ခေါ်)အလ္လာမာဗစ်ရ်ကေ့လီသခင်က ဆိုသည်မှာ لَحْنٌ خَفِىٌّ မျိုးမှားယွင်းမှုကြောင့် အဓိပ္ပါယ်နှင့် စာလုံးပျက်ပြားမသွားသော်လည်း ကုရ်အာန်၏အလှ အပနှင့် တင့်တယ်မှု ဂုဏ်ဒြပ်ပျက်ပြား ပပျောက်စေသည့်အတွက် (حَرَامٌ) ဟရာမ် ဖြစ်လေသည်ဟု ဆိုသည်။ (أحكام قراءة القرآن الكريم ـ ص ٣٦)



# اَلاِسْـتِـعَاذَةُ وَالْـبَـسْـمَـلَـةُ

## بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ နှင့် أَعُوْذُ بِاللّٰهِ مِنَ الشَّيْطٰنِ الرَّجِيْمِ

## ဖတ်ခြင်းအကြောင်း

ကုရ်အာန်ကျမ်းမြတ်မဖတ်မီ أَعُـــــوْذُ ဖတ်ရန် တာဝန်ရှိသည်။ အကြောင်းမှာ အလ္လာဟ်အရှင်မြတ်ဘက်တော်မှ ဤသို့ အမိန့်တော်လာရှိသည့်အတွက်ကြောင့် ဖြစ်သည်။ ﴿فَإِذَاقَرَأْتَ الْـقُرْآنَ فَاسْتَعِذْبِاللّٰهِ مِنَ الشَّيْطٰنِ الرَّجِيْمِ﴾ النحل ٩٨. အသင် ကုရ်အာန်ကျမ်းတော်မြတ်ဖတ်မည်ဆိုပါက နှင်ထုတ်ခြင်းခံရသော ရှိုင်သွာန်မိစ္ဆာမှ အလ္လာဟ်အရှင်မြတ်ထံ ခိုလှုံမှုတောင်းခံကုန်။ သို့သော် အဆိုပါတာဝန်ရှိမှုသည် (مُسْتَحَبٌّ) အဆင့်လော (وَاجِبٌ) အဆင့်လောဟူသည်မှာ ပညာရှင်များထံတွင် အဆိုကွဲပြားမှုများ ရှိလေသည်။ အချို့ပညာရှင်များက အထက်ပါကွဲပြားမှုသည်

အထူးသဖြင့် ''ဆွလားသ်''ဝတ်ပြုမှုနှင့်သာ သက်ဆိုင်သည်ဟု မိန့်ဆိုခဲ့ကြသည်။ (၁)

ထို့ပြင်''ဆွလားသ်'' ဝတ်ပြုစဉ်မှအပ အခြားအခြေအနေများတွင် ကုရ်အာန် ဖတ်ရွတ်မည်ဆိုပါက أَعُوْذُ الخ ဖတ်ရန် سُنَّةٌ အဆင့် တာဝန်ဖြစ်လေသည်။

بِسْمِ اللّٰهِ الخ သူရဟ် အားလုံး၏အစတွင် سُوْرَةُ بَرَاءَةٍ မှအပ ကျန် သူရဟ် အားလုံး၏အစတွင် ဖတ်ရန် وَاجِبٌ တာဝန်ဖြစ်ကြောင်း ပညာရှင်များက တစ်ညီတစ်ညွတ်တည်း ဆုံးဖြတ်ထားကြသည်။

အကယ်၍ စတင်ဖတ်ရွတ်မှုသည် سُوْرَةٌ အတွင်းရှိ အာယသ်တော်တစ်ခုခုမှ ဖြစ်ပါမူ بِسْمِ اللّٰهِ ဖတ်ခြင်းသည် မိမိရွေးချယ်မှုအပေါ် မူတည်သည်။ သို့သော် ဖတ်ရွတ်ခြင်းက ပို၍မြတ်သည်။ ဤပုံစံ၌ အောက်ပါနည်းအတိုင်း ကျင့်သုံးရန် အရေးကြီးပေသည်။

سُوْرَةٌ နှင့် بِسْمِ اللّٰهِ الخ ၊ أَعُوْذُ الخ ဟူသည်မှာ قَطْعُ الْجَمِيْعِ (၁) အတွင်းမှ အစပြုမည့် အာယသ်တော်တို့ကို တစ်ခုချင်းခွဲ၍ ဖတ်ခြင်းအား ခေါ်ဆိုသည်။

(၂) بِسْمِ اللّٰهِ နှင့် أَعُوْذُ ဟူသည်မှာ وَصْلُ الأَوَّلِ بِالثَانِى وَقَطْعُ الثَالِثِ တွဲဖတ်၍ ရပ်နားပြီး سُوْرَةٌ အတွင်းရှိ စတင်မည့်အာယသ်တော်ကို သီးသန့်ခွဲ၍ဖတ်ခြင်းကိုခေါ်ဆိုပါသည်။ (၂)



(١) هى مستحبة عندالأكثر، وقيل واجبة ، وقال النويرى والعطاء لظاهرالآية، وقال بعضهم موضع الخلاف إنّما هو فى الصلاةخاصّة، أمّافى غيرها فسنّةٌ قطعًا، وعلى الأوّل هى سنةُعينٍ لاسنّة كفاية. فيض العزيزالمعروف بمفتاح التجويد ص٤ . للشيخ المفتى القارى سعيد أحمد(نوّرالله مرقده) المفتى الأكبرلجامعة مظاهرالعلوم بسهارنفور.

(٢) فقد قال البنّا في (( إتحاف فضلاء البشر)) ١: ٣٦٢: ((لايجوز وصل البسملة بجزء من أجزاء السورة،لامع الوقف ولاوصله بمابعده،إذالقراءة سنة متبعة، وليس أجزاء السورة محلا للبسملة عند أحد..)) انتهى.يعنى:أنه لايجوز عند الابتداء بوسط السورة إلاوجهان: (الأول) قطع الجميع. (الثانى) وصل الاستعاذة بالبسملة مع الوقف عليها،ثم الابتداء برأس الآية.تعليق محمد طلحة بلال مَنْيَارعلى أحكام قراءة القرآن الكريم ص ٣٣٤.

# حُكْمُ مَا بَيْنَ السُّوْرَتَيْنِ

## سُوْرَةٌ နှစ်ခုအကြား ဖတ်ရွတ်မှုဆိုင်ရာ ပညတ်ချက်

ဖတ်ရွတ်သူသည် سُوْرَةٌ တစ်ခု ပြီးဆုံးပြီး နောက်တွင်လာရှိသော سُوْرَةٌ တစ်ခုကို ဆက်ဖတ်မည်ဆိုပါက အောက်ပါနည်းများအနက်မှ သုံးမျိုး ဖတ်ပိုင်ခွင့် ရှိသည်။

(၁) فَصْلُ الْكُلِّ ဟူသည်မှာ ပြီးခဲ့သော سُوْرَةٌ ၏အဆုံးတွင် ရပ်နားပြီး بِسْمِ اللهِ ဖတ်၍ ရပ်နားကာ ဒုတိယ سُوْرَةٌ အား စတင်ဖတ်သည့်ပုံစံကို ခေါ်ဆိုပါသည်။

(၂) وَصْلُ الْكُلِّ ဟူသည်မှာ ပြီးခဲ့သော سُوْرَةٌ ၏အဆုံးကို بِسْمِ اللهِ ၏အစနှင့် ဆက်၍ဖတ်လျက် ယင်း بِسْمِ اللهِ ၏အဆုံးအား လာမည့် سُوْرَةٌ ၏အစနှင့် ဆက်၍ ဖတ်ပုံကို ခေါ်ဆိုပါသည်။

(၃) فَصْلُ الأَوَّلِ وَوَصْلُ الثَّانِى ဟူသည်မှာ ပြီးခဲ့သော سُوْرَةٌ အဆုံးတွင် ရပ်နားပြီး بِسْمِ اللهِ အား လာမည့် سُوْرَةٌ ၏အစနှင့် တွဲ၍ဖတ်ခြင်းကို ခေါ်ဆိုပါသည်။

(၄) وَصْلُ الأَوَّلِ وَفَصْلُ الثَّانِى ဟူသည်မှာ ပြီးခဲ့သော سُوْرَةٌ ၏အဆုံးကို بِسْمِ اللهِ နှင့်တွဲဖတ်ပြီး လာမည့် سُوْرَةٌ အား ခွဲဖတ်ပုံကို ခေါ်ဆိုပါသည်။ ဤပုံစံသည် ဖတ်ပိုင်ခွင့်မရှိသော ပုံစံဖြစ်သည်။ အကြောင်းမှာမူ بِسْمِ اللهِ သည် ပြီးခဲ့သော سُوْرَةٌ ၏နောက်ဆုံးအာယသ်တော်ပုံစံမျိုးနဲ့ တူဆင်နေသည့်အတွက်ကြောင့်ဖြစ်သည်။ အမှန်မှာ بِسْمِ اللهِ သည် سُوْرَةٌ များ၏အဆုံးသတ်ရာ ဝါကျအဖြစ် သတ်မှတ်ထားသည်မဟုတ်ဘဲ سُوْرَةٌ များ မစမီ ပဏာမလာ ဝါကျအဖြစ် သတ်မှတ်ထားသည့်အတွက်ကြောင့် ဖြစ်ပါသည်။(١)

---

(١) أمـاالوجه الرابع ـ الذي يجيزه العَقْلُ وهو وَصْلُ آخِرِ السورة بالبسملة مع الوقف عليها، فهو ممتنع اتفاقًا، لأن البسملة إنما جعلت لأوائل السورلالأواخرها.أحكام قراءة القرآن الكريم ص ٣٣٥.

**မှတ်ချက်** – အဆိုပါ ဖတ်ပိုင်ခွင့်ရှိသော ပုံစံ(၃)မျိုးတွင် လာမည့် سُـوْرَةُ နေရာ၌ မဖြစ်စေရ။ အကယ်၍ سُوْرَةُ بَرَاءَةٍ ဖြစ်နေပါမူ အောက်ပါပုံစံ(၃)မျိုး سُوْرَةُ بَرَاءَةٍ ဖြင့်သာ ဖတ်ပိုင်ခွင့်ရှိသည်။ (၁) الْـقَـطْـعُ (သို့မဟုတ်) الـوَقْفُ ဆိုလိုသည်မှာ سُـوْرَةُ الأنْفال အဆုံးတွင် အသက်ရှူမှုနှင့်တကွ ရပ်နားပြီး سُـوْرَةُ بَرَاءَةٍ အား بِسْمِ اللّٰه မဖတ်ဘဲ အစပြုပုံ။

(၂) السّكت – سُـوْرَةُ الأنْفالِ အဆုံးတွင် အသက်မရှူဘဲ ရပ်နားလျက် سُوْرَةُ بَرَاءَةٍ အား بِسْمِ اللّٰه မဖတ်ဘဲ အစပြုပုံ။

(၃) سُوْرَةُ الأنْفَالِ အဆုံးအား سُوْرَةُ بَرَاءَةٍ နှင့်ဆက်တွဲဖတ်ပုံ။(١)



## بَابٌ فِي الْمُتَمَاثِلَيْنِ(٢) وَالْمُتَقَارِبَيْنِ وَالْمُتَجَانِسَيْنِ وَالْمُتَبَاعِدَيْنِ

الْـمُتَـمَـاثِلَانِ ဟူသည်မှာ ဇာတိတူအက္ခရာနှစ်ခု ဆုံစည်းပုံ သို့မဟုတ် အမည်တူ အက္ခရာနှစ်ခု ဆုံစည်းပုံကို اَلْـمُتَمَاثِلَانِ ဟုခေါ်သည်။ အေမာမ်ဂျအ်ဗရီ (رحمه الله) သခင်၏ ဖွင့်ဆိုချက်မှာ အကောင်းဆုံးနှင့် အပြည့်စုံဆုံးဖြစ်သည်။(٣)

---

(١)وأما إذاوصل أوَّلَ براءةٍ بآخرالأنفال فيجوز له ثلاثةُ أوجه . الأول : الوقفُ ، وقد يعبر عنه بالقطع ، وهـوالوقف على آخر الأنفال مع التنفس. الثانى: السكت ، وهوالوقف على آخر الأنفال من غير تنفس. الثالث: وصل آخر الأنفال بأوّل براءةٍ . وتكون هذه الأوجه الثلاثة بدون بسملة ، إذالم تثبت البسملة فى أول براءة بالإجماع كماتقدم . المصدرالسابق ص ٣٣٦.

(٢) هـو أن يتـفـق الـحـرفـان صـفة ومخرجًا.وحكمه: وجوب الإدغام إذا سكن أوّلهما وكان السـاكـن غيـر حـرف مـد، ويسمى إدغام مثلين صغيرًا، وإن تحركا وأدغما فيسمى إدغام مثلين كبيرا.مفتاح التجويد ص ٧٤.

(٣) فالأحسن والأجمع ماقاله الإمام الجعبري رحمه الله فى تعريف المتماثلين : ((هما الحرفان اللذان اتحدا ذاتًا، أو اندرجافي الاسم)).أحكام قراءة القرآن الكريم ص ١٢٤.

صِفَةٌ ငှ့် မခ္ရဂ်- مَخْرَجٌ-ကပ္ပိုမှာ ہوسၢ اَلْمُتَمَاثِلاَنِ ဟူသည်မှာ သင်္ဂြိုဟ်ပညာရှင်အများစုက

နှစ်မျိုးလုံးတူသော အက္ခရာနှစ်ခု ဆုံစည်းပုံကို ခေါ်ဆိုကြသည်။

(၁) ထိုသို့ ဆုံစည်းသည့်အခါ ပထမအက္ခရာသည် حَـرْفُ الْـــمَــدِّ အပြင်

ကျန်အက္ခရာဖြစ်ရမည်။ ယင်းအက္ခရာသည် مُتَــحَـرِّكَةٌ ဖြစ်ပြီး ဒုတိယ سَـــاكِـنَةٌ

ဖြစ်သော အက္ခရာတွင် إِدْغَامٌ ပြုလုပ်ရခြင်းကို إِدْغَــامُ مِثْـلَـيْــنِ صَــغِـيْـرًا ဟု

ခေါ်ဆိုသည်။

﴿ وَمَنْ يُـكْرِ هْـهُـنَّ ، يُدْرِكْكُمُ الْمَوْتُ ، وَقَدْ دَّخَلُوْا ، إِذْذَّهَبَ ﴾ - ဥပမာ

(၂) ထိုသို့ဆုံစည်းသည့်အခါ အက္ခရာနှစ်ခုလုံးသည် مُتَـــحَــــرِّكَةٌ ဖြစ်ကြပြီး

إِدْغَــــامُ ပြုလုပ်ရခြင်းကို إِدْغَــــامُ مِثْــلَيْـــنِ كَبِيْـــرًا ဟု ခေါ်ဆိုသည်။

အေမာမ်ဟဖ်ဆွ် (رحـــمـــــه الله) သခင်၏ "ကေရာအသ်"အရ အောက်ပါတို့သာ

ဥပမာဖြစ်နိုင်သည်။

﴿ فَنِعِمَّا هي ﴾الآية ٢٧١ سورة البقرة - ﴿ نِعِمَّا يَعِظُكُمْ ﴾الآية ٥٨ سورة النساء

﴿ تَأْمُرُوْ نِّيْ ﴾ الآية ٦٤ سورة الزمر ﴿ لَاتَأْمَنَّا ﴾ الآية ١١ سورة يوسف (١).

﴿ أَتُحَآجُّوْ نِّيْ ﴾الآية ٨٠ سورة الأنعام﴿ مَكَّـنِّيْ ﴾الآية ٩٥سورة الكهف

(၃) အဆိုပါမျိုးတူ အက္ခရာနှစ်ခုဆုံစည်းရာတွင် ပထမအက္ခရာသည် مُتَـحَرِّكَةٌ

ဖြစ်ပြီး ဒုတိယအက္ခရာသည် سَاكِـنَـةٌ ဖြစ်ပါက إِظْهَارٌ ပြုလုပ်ရန်သာ "ဝါဂျစ်ဗ်"

---

(١) ﴿مَالَكَ لاتَأْمَـنَّـا﴾أصلـهـالاتـأمَـنُنَا، فإن لحفصٍ فيه وجهين : الأول : الإدغام مع الإشمام، والثـانـي : الإخـفـاء، والـمـراد بـه، اختـلاس حركة النون الأولى وهي الضمة.ومعنى الاختلاس: هـو النطق بِثُلُثَي الحركة وعرّفه بعضهم : بأنـه الإسراع بالحركة، بحيث يحكم السامع بذهابها، وهي كاملةُ الوزن والصفة. أحكام قراءة القرآن الكريم وهامشه ص ١٢٧.

ဖြစ်ပါသည်။ ဤပုံစံမျိုးကို اَلْمُتَمَاثِلَانِ الْمُطْلَقُ ဟုခေါ်သည်။

ဥပမာ - ﴿ تَـتْـلُـوْ ، تُشْطِطْ ﴾

مَخْرَجٌ ဟူသည်မှာ صِفَةٌ အက္ခရာဝိသေသ မတူညီသော اَلْـمُتَـقَارِبَانِ နီးကပ်သည့် အက္ခရာနှစ်ခု၏ ဆုံစည်းပုံကို ခေါ်ပါသည်။

(၁) ထိုသို့ဆုံစည်းရာတွင် ပထမအက္ခရာသည် سَـاكِـنَـةٌ ဖြစ်နေစဉ် إِدْغَـامٌ ပြုလုပ်ပုံကို إِدْغَامُ مَتَقَارِبَيْنِ صَغِيْرًا ဟုခေါ်သည်။ (١)

ဥပမာ- نَغْفِرْلَكُمْ - إِذْ تَمْشِىْ - قَدْ سَمِعَ -

(၂) ထိုသို့ဆုံစည်းရာတွင် အက္ခရာနှစ်ခုလုံး مُتَـحَـرِّكَةٌ ဖြစ်နေစဉ် إِدْغَـامٌ ပြုလုပ်ပုံကို إِدْغَامُ مُتَقَارِبَيْنِ كَبِيْرًا ဟုခေါ်သည်။ (٢)

ဥပမာ- حَتّٰى إِذا هَلَكَ قُلْتُمْ - عَدَدَسِنِيْنَ -

(၃) ထိုသို့ဆုံစည်းရာတွင် အက္ခရာနှစ်ခုလုံးအနက် ဒုတိယအက္ခရာသည် سَـاكِـنَةٌ ဖြစ်ပြီး ပထမအက္ခရာသည် مُتَـحَرِّكَةٌ ဖြစ်ပုံကို اَلْـمُتَـقَـارِبَانِ اَلْـمُـطْـلَقُ ဟု ခေါ်သည်။ အေမာမ်ဟဖ်ဆွ် (رحمه الله) သခင်ထံ၌ اَلْـمُتَقَـارَبَـانِ အမျိုးအားလုံးတွင် إِظْهَـارٌ ပြုလုပ်ရန် ''ဝါဂျစ်ဗ်''ဖြစ်သည်။ သို့သော် لْ ၏နောက်တွင် ر ဆုံစည်းပုံ၌ إِدْغَامٌ ပြုလုပ်ရန် ''ဝါဂျစ်ဗ်''ဖြစ်သည်။

ဥပမာ - ﴿ قُلْ رَّبِّ ، بَلْ رَّفَعَهُ اللّٰهُ ﴾

مَخْرَجٌ ဟူသည်မှာ صِفَةٌ အက္ခရာဝိသေသ မတူဘဲ اَلْمُتَجَانِسَانِ သာ တူညီသည့် အက္ခရာနှစ်ခု၏ဆုံစည်းပုံ သို့မဟုတ် مَـخْـرَجٌ မတူဘဲ صِـفَةٌ

---

(١) نحو : إِذْ تَمْشِيْ ، قَدْ سَمِعَ ، نَغْفِرْ لَكُمْ ، ( في غير رواية حفص ).

(٢) نحو : عَدَدَ سِنِيْنَ ، حَتّٰى إِذَا هَلَكَ قُلْتُمْ ، ( في غير رواية حفص ).

အက္ခရာဝိသေသသာ တူညီသည့် အက္ခရာနှစ်ခု၏ ဆုံစည်းပုံကို ခေါ်ဆိုပါသည်။

(၁) ထိုသို့ဆုံစည်းပြီးနောက် ပဌမအက္ခရာသည် سَـــاكِـــنَةٌ ဖြစ်၍ ဒုတိယ အက္ခရာသည် مَتَـحَـرِّكَةٌ ဖြစ်ပြီး إِدْغَـامٌ ပြုပုံကို إِدْغَــامُ مُتَـجَــانِسَيْنِ صَغِيْرًا ဟုခေါ်သည်။

﴿ قَـالَ تَـالـلّٰهِ إِنْ كِـدْتَ لَـتُرْدِيْنِ ﴾ الآية ٥٦ سـورة الصافات. - ဥပမာ

﴿ قَدْ تَبَيَّنَ ﴾ الآية ٢٥٦ سورة البقرة. ﴿ أَثْقَلَتْ دَعَوَاللّٰهَ ﴾ الآية ١٨٩ ـ الأعراف .

﴿ وَدَّتْ طَائِفَةٌ ﴾ الآية ٦٩ سورة آل عمران. ﴿ إِذْظَّلَمْتُمْ ﴾ الآية ٣٩ ـ الزخرف

﴿ لَـئِـنْ بَـسَـطْـتَ ﴾ الآيـة ٢٨ـ المائـدة. ﴿ فَـرَّ طْـتُـمْ ﴾ الآية ٨٠ ـ يـوسف.

﴿أَحَطْتُ﴾ الآية ٢٢ ـ النمل . ﴿ فَرَّطْتُ ﴾ الآية ٥٦ ـ الزمر. ﴿ أَلَمْ نَخْلُقْكُمْ ﴾

الآية ٢٠ ـ المرسلات.(١)

---

(١) وإدغـام الدال في التاء،والتاءِ في الدال والطاء،والذالِ في الظاء: كلّه إدغام كامل، وهو الذي يـدخُـل فيـه الـمـدغـم في المدغَم فيه ذاتًا وصفة. وأما إدغام الطاء في التاء في الكلمات السابقة فـإدغـام نـاقـص لإدخـال المدغم في المدغم فيه ذاتًا لاصفة،لأن علماءَ الأداء أجمعواعلى إبقاء صفة الإطباق في الطاء فيالكلمات المذكورة. وأماإدغام القاف في الكاف في:﴿أَلَمْ نَخْلُقْكُمْ﴾ فـقـد اتفق عليه أهلُ الأداء أيضًا، ولكنهم اختلفوا في إبقاء صفةِ استعلاءِ القاف ، فذهب بعضهم إلـى إبـقـائهـا مـع الإدغـام، وذهـب بـعـضهم إلى إدغام القاف في الكاف إدغامًا محضًا كاملاً وإذهـاب صـفةِالاستـعلاء في القاف، وإنما أجمع العلماء على إبقاء صفة اللإطباق في الطاء لأن الإطبـاق أقـوى مـن الإستـعلاء ، فأوجبوا المحافظة على الأقوى .( أحكام قراء ة القرآن الكريم بتغيريسير ص ١٣٢،١٣٣)

(၂) ထိုသို့ဆုံစည်းရာတွင် အက္ခရာနှစ်ခုလုံး مُتَحَرِّكَةٌ ဖြစ်နေစဉ် إِدْغَامٌ ပြုလုပ်ပုံကို إِدْغَامُ مُتَجَانِسَيْنِ كَبِيْرًا ဟုခေါ်သည်။ (١)

ဥပမာ - وَلْتَأْتِ طَائِفَةٌ (النساء : الآية ١٠٢) - وَالْحَرْثِ ذٰلِكَ (آل عمران : الآية ١٤)

(၃) ထိုသို့ဆုံစည်းရာတွင် အက္ခရာနှစ်ခုလုံးအနက် ဒုတိယအက္ခရာသည် سَاكِنَةٌ ဖြစ်ပြီး ပထမအက္ခရာသည် مُتَحَرِّكَةٌ ဖြစ်ပုံကို اَلْمُتَجَانِسَانِ اَلْمُطْلَقُ ဟု ခေါ်သည်။(٢) ဥပမာ - يَشْكُرُ - تَدْعُوْ - لَمَبْعُوْثُوْنَ

မှတ်ချက်။ ။ (၁) အေမာမ်ဟဖ်ဆ္ဖ (رحـمـه الله) သခင်ထံတွင် ၂ နှင့် ၃ အမျိုး အားလုံးတွင် إِظْهَارٌ ပြုလုပ်ရန် ''ဝါဂျစ်ဗ်''ဖြစ်သည်။

(၂) اَلْمُتَجَانِسَانِ الْمُطْلَقُ အမျိုးသည် ကေရာအသ်ပညာရှင်များ အားလုံးထံတွင် إِظْهَارُ ပြုလုပ်ရန် ''ဝါဂျစ်ဗ်''ဖြစ်လေသည်။

اَلْمُتَبَاعِدَانِ ကွဲပြားလျက် صِفَةٌ ဟူသည်မှာ مَخْرَجٌ အက္ခရာဝိသေသ အရလည်း ကွာဝေးမှုရှိသော အက္ခရာနှစ်ခု ဆုံစည်းပုံကို ခေါ်ပါသည်။ اَلْمُتَبَاعِدَانِ ၏ ပုံစံအားလုံးတွင် إِظْهَارٌ ပြုလုပ်ရန် ''ဝါဂျစ်ဗ်''ဖြစ်သည်။ သို့သော် نْ ၏နောက်တွင် ق လာပုံနှင့် ك လာပုံတို့တွင် إِخْفَاءٌ ပြုလုပ်ရန် ပညာရှင်များက တညီတညွှတ်တည်း ဆုံးဖြတ်ထားကြပေသည်။

ဥပမာ - ﴿ فَانْقَلَبُوْا ﴾ ﴿ أَنْكَاثًا ﴾ . أحكام قراءة القرآن الكريم وهامشه ص ١٣٩

❖ ❖ ❖ ❖ ❖ ❖ ❖

(١) وَلْتَأْتِ طَائِفَةٌ - وَالْحَرْثِ ذٰلِكَ - ( في غيررواية حفصؒ ) مفتاح التجويد ص٧٥. فحكمه: (أى حكم المتجانسين كبيرا) وجوب الإظهار عند حفص رحمه الله . (أحكام قراءة القرآن الكريم - ص ١٣٤)

(٢) حكم المتجانسين المطلق : وجوبُ الإظهارِ عند جميع القرّاء .(أحكام قراءة القرآن الكريم - ص ١٣٤)

# بَابُ حُكْمِ لاَمِ أَلْ

## اَلْ တွင်ပါသော ل ၏ ပညတ်ချက်အကြောင်း

ရှေ့လာမည့်အက္ခရာ (၁၄)လုံးအနက် တစ်လုံးလုံး၏အလျင် اَلْ လာရှိပါက ယင်း اَلْ ၏ ل အား (ရောယှက်မှုမရှိဘဲ ထင်ရှားစွာ إظهار )ပြုလုပ်၍ ဖတ်ရမည်။ ထိုအက္ခရာများအား –

( اِبْغِ حَجَّكَ وَخَفْ عَقِيْمَهٗ ) ဟု စုစည်းထားသည်။ အဆိုပါ အက္ခရာများမှာ – أ ب غ ح ج ك و خ ف ع ق ي م هـ တို့ဖြစ်သည်။ ဥပမာ –

﴿ اَلأَرْض ،اَلْبَلَدُ ، اَلْغَنِيّ ، اَلْحَجّ ،اَلْجَنَّةُ ، اَلْكِتَابُ ، اَلْوَدُوْدُ ، اَلْخَالِقُ ، اَلْفَجْرُ ، اَلْعَلِيمُ ، اَلْقَوِيُّ ، اَلْيَقِيْنُ ، اَلْمَولٰى ، اَلْهُدَى ﴾

ဖော်ပြပါအက္ခရာများကို اَلْحُرُوْفُ الْقَمَرِيَّةُ ဟုခေါ်သည်။

အောက်ပါအက္ခရာ (၁၄)လုံးအနက် တစ်လုံးလုံးအလျှင် اَلْ လာရှိပါက ယင်း اَلْ ၏ ل အား إِدْغَامٌ (ခေါ်) ရောယှက်ပေါင်းစပ်၍ ဖတ်ရမည်။ ထိုအက္ခရာများအား အောက်ပါကဗျာ၌ ပါရှိသောစာလုံးတိုင်း၏ ပထမအက္ခရာတိုင်းတွင် ထည့်သွင်းသီကုံး စုစည်းထားပါသည်။

طِبْ ثُمَّ صِلْ رُحْمًا تَفُزْ ضِفْ ذَا نِعَمْ      دَعْ سُوْءَ ظَنٍّ زُرْشَرِيْفًا لِلْكَرَمِ

အဆိုပါအက္ခရာများမှာ ط ث ص ر ت ض ذ ن د س ظ ز ش ل တို့ ဖြစ်ကြသည်။ ဥပမာ –

﴿ اَلطَّارِقُ ، اَلثَّقَلاَنِ ، اَلصَّادِقُوْنَ ، اَلرَّحْمٰنُ ، اَلتَّائِبُوْنَ ، وَالضُّحٰى ،

اَلـذَّاكِـرِيْـنَ ، وَالـنَّهَـارِ ، اَلـدِّيْنِ ، وَالسَّمَاءِ ، اَلظَّانِّيْنَ ، وَالزَّيْتُوْنِ ، وَالشَّمْسِ ، وَاللَّيْلِ ﴾

ဤအက္ခရာများအား اَلْحُرُوْفُ الشَّمْسِيَّةُ ဟုခေါ်သည်။



## بَابُ حُكْمِ لاَمِ الْفِعْلِ وَلاَمِ هَلْ وَبَلْ

### هَلْ - بَلْ နှင့် فِعْلٌ "ကြိယာ"တွင်ပါသော ل တို့၏ဥပဒေများ အကြောင်း

هَلْ - بَلْ နှင့် فِعْلٌ ကြိယာတွင်ပါသော ل တို့အား إِظْهَارٌ ဖတ်ရန်မှာ ဝါဂျစ်ဗ်တာဝန်ဖြစ်သည်။ သို့သော် အဆိုပါ ل များနောက်တွင် ل သို့မဟုတ် ر အက္ခရာ တစ်ခုခုကျရောက်ပါက اِدْغَامٌ ပြုလုပ်ရန် တာဝန်ရှိသည်။ إِظْهَارٌ ၏ ဥပမာများ-

**بَلْ ၏ ဥပမာ** - ﴿بَلْ طَبَعَ اللّٰهُ عَلَيْهَا ، بَلْ تَأْتِيْهِمْ بَغْتَةً، بَلْ تُحِبُّوْنَ ، بَلْ زُيِّنَ ، بَلْ زَعَمْتُمْ ، بَلْ سَوَّلَتْ ، بَلْ ضَلُّوْا ،بَلْ ظَنَنْتُمْ، بَلْ نَتَّبِعُ﴾ ،

**هَلْ ၏ ဥပမာ** - ﴿هَلْ يَسْمَعُوْنَكُمْ ، هَلْ أَتٰى عَلَى الإِنْسَانِ ، هَلْ تَعْلَمُ ، هَلْ تَنْقِمُوْنَ ، هَلْ تُحِسُّ ، هَلْ ثُوِّبَ الْكُفَّارُ ،هَلْ نَحْنُ مُنْظَرُوْنَ،هَلْ نَدُلُّكُمْ ، فَهَلْ نَجْعَلُ﴾

**لاَمُ الفِعْلِ ၏ ဥပမာ** - ﴿يَلْتَقِطْهُ ، وَلاَ يَلْتَفِتْ ، تَلْفَحُ ، أَلَمْ أَقُلْ ،فَمَنْ يَعْمَلْ،

لَمْ نَجْعَلْ ، وَمَنْ يَقُلْ ، فَلْتَقُمْ ، فَلْيُصَلُّوْا ، وَلْيَسْتَعْفِفْ ، وَأَلْقِ مَافِيْ يَمِيْـنِكَ ، وَالْعَـنْهُمْ لَعْـنًا كَبِيْرًا ، فتَوَ كَّلْ عَلَى اللّٰه ، وَتَـبَـتَّلْ إِلَيْهِ ، قُلْ تَعَالَوْا ﴾

**إِدْغَامٌ ၏ ဥပမာများ -**

بَلْ لَّايَخَافُوْنَ ـ ပုံ ل ၌ إِدْغَامٌ ဖြစ်ပုံ ل မိမိနောက်တွင်လာသော ل သည် بَلْ ၏ ل

بَـلْ رَّفَعَهُ اللّٰهُ - ပုံ ر ၌ إِدْغَامٌ ဖြစ်ပုံ ر မိမိနောက်တွင်လာသော لْ သည် بَلْ ၏ لْ

هَـلْ لَّكُمْ - ပုံ ل ၌ إِدْغَـامٌ ဖြစ်ပုံ ل မိမိနောက်တွင်လာသော لْ သည် هَلْ ၏ لْ

هَلْ ၏ لْ သည် မိမိနောက်တွင်လာသော ر ၌ إِدْغَـامٌ ဖြစ်ပုံသည် ကုရ်အာန် ကျမ်းမြတ်၌ မလာရှိပေ။ သို့သော် အရဗီစကား၌ ပြောဆိုကြသည်ကို ဥပမာအဖြစ် တင်ပြရသည်ရှိသော် ؟ هَـلْ رَّأَيْـــتَ الذِّ ئْـبَ ဖြင့် အဆိုပါဥပဒေကို နားလည်ရန် လုံလောက်ပေသည်။

لَامُ الْفِعْلِ (ခေါ်) ကြိယာတွင် ပါရှိသော لْ ၏နောက်တွင် ل နှင့် ر တို့လာသည့် အခါ إِدْغَامٌ ဖြစ်ပုံ ، قُلْ لَّـوْ كَانَ ، قُلْ لَّوْ أَنْـتُمْ ، قُلْ لَّا أَسْـأَلُـكُمْ ، قُلْ لَّـكُمْ ، قُلْ رَّبِّ إِمَّا تُرِيَنِّيْ .

❖ ❖ ❖ ❖ ❖ ❖ ❖

## ( بَابُ الْوَ قْفِ )

## ဝပ်က်ဖ် (ခေါ်) ရပ်နားခြင်းအကြောင်း

اَلـوَقْفُ ـ ဝပ်က်ဖ် ဟူသည်မှာ (သဂျ်ဝီးဒ်ပညာရပ်ဆိုင်ရာ ဝေါဟာရအရ) ရပ်နားပုံ (၃)ခုအနက်မှ တစ်မျိုးမျိုးဖြင့် ပြန်ဖတ်မည်ဟု ရည်ရွယ်လျက် အသက်ရှူမှုနှင့်တကွ ကုရ်အာန်စာလုံးတွင် အသံကိုဖြတ်လိုက်ခြင်းအား ခေါ်ဆိုပါသည်။(၁)

အဆိုပါရပ်နားပုံ(၃)ခုမှာ - (၁) الإسكَانُ (၂) اَلرَّوْمُ (၃) اَلإِشْمَامُ တို့ဖြစ်ပါသည်။ ၎င်းတို့အနက် တစ်ခုတိုင်း၏ ရှင်းလင်းချက်သည် မကြာမီရှေ့တွင် လာမည်ဖြစ်သည်။



## أَنْوَاعُ الوَقْفِ أَرْبَعَةٌ

## “ဝပ်က်ဖ်” ရပ်နားနည်း အခြေအနေ(၄)မျိုးရှိပါသည်။

(١) اِخْتِيَارِىٌّ (٢) اِضْطِرَارِىٌّ (٣) اِنْتِظَارِىٌّ (٤) اِخْتِبَارِىٌّ

(၁) اَلْـوَقْفُ الاِخْتِيَـارِىٌّ - ဟူသည်မှာ အကြောင်းခံများအနက်မှ တစ်စုံတစ်ခုသော အကြောင်းမပေါ်ပေါက်ဘဲ မိမိဆန္ဒဖြင့်ရပ်နားမှုအား ရည်ရွယ်ဆောင်ရွက်ခြင်းကို ခေါ်ဆိုပါသည်။(၂)

---

(١) ومعناه فى الإصطلاح:قطع الصوت على الكلمة القرانية زمنًا يُتَنَفَّسُ فيه عادة ، مع قصد الرجوع إلى القراءة. أحكام قراءة القرآن الكريم ص ٢٥١.

(٢) إذا قُصِدَ لِذاته من غير عُروض سبب من الأسباب.

ထိုသို့ဆောင်ရွက်ခြင်းသည် ''အာယတ်တော်''များ၏အဓိပ္ပါယ်များကို ဂရုပြုခြင်း၊ ဝါကျများဆက်စပ်ပုံမှ ပေါ်ထွက်လာသောအဓိပ္ပါယ်များကို သတိထားခြင်းနှင့် စာလုံးများ၏အထားအသိုတို့မှ ပေါ်ပေါက်လာသည့် အနှစ်သာရများကို သတိမူခြင်း အတွက်သာ ဖြစ်စေရမည်။ အခြားအကြောင်းများကြောင့် မဖြစ်စေရ။ (١)

(၂) اَلْـوَقْفُ الِاضْطِرَارِىُّ – ဟူသည်မှာ အကြောင်းတစ်ခုခုကြောင့် အခက်အခဲကြုံကြိုက်၍ ရပ်နားရသည့်အခါ ယင်းအကြောင်းခံသည် ဖတ်လိုသည့်အတိုင်းအတာ မကုန်ဆုံးမီ ရှူသက်လေ ကုန်ဆုံးသွားကာ အကျပ်အတည်းဖြစ်ခြင်း စသဖြင့် ဥပမာ- မစွမ်းနိုင်မှုဖြစ်ပေါ်လာခြင်းနှင့် မေ့လျော့သွားခြင်းတို့ကြောင့် ဆက်မဖတ်နိုင်ဘဲ အခက်တွေ့ကာ ရပ်လိုက်ရခြင်းတို့ကို ခေါ်ဆိုပါသည်။

အဆိုပါအခြေအနေမျိုးနှင့် ကြုံကြိုက်လာပြီး ပြန်လည်ဆက်ဖတ်ရာတွင် ဖတ်ရွတ်သူအပေါ် အချက်(၂)ချက်ကို ဂရုပြုရန် တာဝန်ရှိလာပါသည်။ (၁) မိမိရပ်နားခဲ့သောစာလုံးမှ ပြန်လည်ကောက်ယူဖတ်ရန် ဆီလျော်ပါမူ ယင်းစာလုံးမှ ပြန်လည် အစပြုဖတ်ရမည်။ (၂) မိမိရပ်နားခဲ့သောစာလုံးမှ ပြန်လည်ကောက်ယူရန် မဆီလျော်ပါမူ ယင်းစာလုံး၏အလျင်ရှိ စာလုံးတစ်လုံးမှ ပြန်လည်အစပြုရမည်။(٢)

(၃) اَلْـوَقْفُ الِانْـتِظَارِىُّ – ဟူသည်မှာ ဖတ်ရွတ်သူက رواية များအား စုစည်း ဖတ်ရွတ်ရန် ရည်ရွယ်ခဲ့မည်။ ၎င်းနောက် မိမိရည်ရွယ်ချက်အတိုင်း ဤကဲ့သို့ စာလုံးတွင် ရပ်ခဲ့မည်။ ယင်းစာလုံးသည် رواية များစွာလာရှိသောစာလုံး ဖြစ်နေ

---

(١) لـملا حظته معنى الآيات، وارتباط الجمل، وموقع الكلمات دون أن يعرض له ما يقتضى الوقف من عذر، أوضرورة، أو تعلّم حكم، أوإجابة عن سؤال. (أحكام قـراءة القرآن الكريم ص ٢٥٣)

(٢) إذااضـطُـرّ إليـه بسبـب ضيق نَفَس ونحوه كعجْز ونسيان، فعلى القارئ وصلُه بأن يبدأ من الكلمة التى وقف عليها إن كانت صالحة للابتداء بها، وإلّافبما قبلها. (مفتاح التجويد ـ ص ٨٤)

ပါက رواية တစ်ခုဖတ်ပြီး အခြား رواية များကို ဆက်ဖတ်ရန်အတွက် ဖတ်ပြီး သော رواية အပေါ် ရပ်နားခြင်းကို ခေါ်ဆိုပါသည်။ (၁)

ဥပမာ- وَفِيْ أَنْفُسِكُمْ တွင် وَفِيْ أَنْفُسِكُمْ أَفَلاَ تُبْصِرُوْنَ ဟုရပ်၍ တစ်ဖန် قَصْرٌ နှင့်တစ်မျိုး وَفِيْ أَنْفُسِكُمُوْا ဟု مَدٌّ နှင့်တစ်မျိုး ဖတ်ရန် ရပ်နားခြင်း။

(၄) اَلْوَقْفُ الإِخْتِبَارِىُّ ဟူသည်မှာ ခလီဖာကြီးအွတ်ဆ်မာန်သခင်(♦) စုစည်းခဲ့သော နူတ်ကပါဠ်တော်ရေးထုံးအရ ခွဲရေးထားသော ပုံစံအားလည်းကောင်း၊ တွဲရေးထားသော ပုံစံအားလည်းကောင်း၊ ''( ـة )ဟာအွန်'' ပုံစံဖြင့် ရေးမထားသော ت အားလည်းကောင်း၊ တည်နေသော အက္ခရာနှင့်ဖြုတ်ထားသော အက္ခရာ စသည်တို့တွင် အဘယ်ပုံရပ်နားသည်ကို သိနိုင်ရန်အတွက် ဖတ်ရွတ်သူအား ရပ်နားနည်း စာမေးပွဲစစ်သည့်ပုံစံကို ခေါ်ဆိုပါသည်။ (၂)

## أمثلة المقطوع - ခွဲရေးထားပုံ၏ ဥပမာများ-

(١) حَقِيْقٌ عَلٰى أَنْ لَّا أَقُوْلَ عَلَى اللّٰهِ إِلَّاالْحَقَّ (الأعراف : ١٠٥)

(٢) أَنْ لَا يَقُوْلُوْا عَلَى اللّٰهِ إِلَّا الْحَقَّ (الأعراف : ١٦٩)

(٣) أَمْ مَنْ يَكُوْنُ عَلَيْهِمْ وَكِيْلاً (النساء : ١٠٩)

(٤) أَنَّ مَايَدْعُوْنَ مِنْ دُوْنِهِ هُوَ الْبَاطِلُ (الحج : ٦٢)

(٥) إِنَّ مَاتُوْ عَدُوْنَ لاٰتٍ (الأنعام : ١٣٤)

---

(١) إذاأرادالقارئ جمع الروايات ووقف على الكلمة ليعطف عليهاغير ها.(مفتا ح التجويد ـ ص٨٥)

(٢) إذااختبر القارئ ليُعْلَم كيف يقف على رسم المصحف العثمانى، من مقطوع ، وموصول وتاء تأنيث لم تكتب بهاء، وثابت ، ومحذوف. (مفتا ح التجويد ص ٨٥)

## أمثلة الموصول – တွဲရေးထားပုံ၏ ဥပမာများ-

(١) أَلَّاتَعْبُدُوْٓا إِلَّااللّٰهَ (هود : ٢)

(٢) أَلَّا يَرْجِعَ إِلَيْهِمْ قَوْلًا (طٰهٰ : ٨٩)

(٣) أَمَّنْ لَّايَهِدِّىْ (يونس : ٣٥)

(٤) أَمَّنْ يُجِيْبُ الْمُضْطَرَّ (النمل : ٦٢)

(٥) أَمَّنْ يَهْدِيْكُمْ فِىْ ظُلُمٰتِ الْبَرِّ وَالْبَحْرِ (النمل : ٦٣)

(٦) فَاعْلَمُوْٓا أَنَّمَاعلٰى رَسُوْلِنَا الْبَلَاغُ الْمُبِيْنُ (المائدة : ٩٢)

تَاءٌ مَرْبُوْطَةٌ (ခေါ်) "( ہ )ဟာအွန်" ပုံစံဖြင့် ရေးမထားသော ت ကို تَاءٌ مَبْسُوْطَةٌ (သို့မဟုတ်) تَاءٌ مَجْرُوْرَةٌ (တတ်) تَاءٌ مَفْتُوْحَةٌ ဟူ၍ အသီးသီး ခေါ်ဝေါ်ကြသည်။ ယင်း ت အပေါ် ရပ်နားခဲ့ပါက هـ အသံဖြင့် မရပ်ဘဲ ت အသံ ဖြင့်သာ ရပ်ရမည်။ ဥပမာ-

(١) ﴿ أُولٰئِكَ يَرْجُوْنَ رَحْمَتَ اللّٰهِ ﴾ (البقرة : ٢١٨)

(٢) ﴿ إِنَّ رَحْمَتَ اللّٰهِ قَرِيْبٌ مِنَ الْمُحْسِنِيْنَ ﴾ (الأعراف : ٥٦)

(٣) ﴿ رَحْمَتُ اللّٰهِ وَبَرَكَاتُهٗ عَلَيْكُمْ ﴾ (هود : ٧٣)

(٤) ﴿ وَاذْكُرُوْا نِعْمَتَ اللّٰهِ عَلَيْكُمْ وَمَآأَنْزَلَ عَلَيْكُمْ ﴾ (البقرة : ٢٣١)

(٥) ﴿ وَاذْكُرُوْا نِعْمَتَ اللّٰهِ عَلَيْكُمْ إِذْكُنْتُمْ أَعْدَاءً ﴾ (آل عمران: ١٠٣)

(٦) ﴿ اٰمَنُوْا اذْكُرُوْا نِعْمَتَ اللّٰهِ عَلَيْكُمْ إِذْهَمَّ قَوْمٌ ﴾ (المائدة : ١١)

إِثْبَاتُ حُرُوْفِ الْمَدِّ وَحَذْفُهَا عِنْدَ الْوَقْفِ – ရပ်နားမည့် စာလုံး၏ နောက်ဆုံးအက္ခရာသည် حُرُوْفُ الْمَدِّ (၃)လုံးအနက်မှ တစ်လုံးလုံးဖြစ်ပြီး ခလီဖာကြီးအွတ်စ်မာန်း(♦)သခင်၏ ရေးထုံးတွင် တည်နေသောအက္ခရာအဖြစ် ရေးသားပါရှိပါက ယင်းအက္ခရာသည် ရပ်နားရာတွင် တည်မြဲနေမည်ဖြစ်ပြီး အဆိုပါ

ရေးထုံးတွင် ဖြုတ်ထားသောအက္ခရာအဖြစ် ရေးသားပါရှိပါက ယင်းအက္ခရာသည် ရပ်နားရာတွင်လည်း ဖြုတ်ထားပြီးဖြစ်ကြောင်း ကောင်းစွာမှတ်ကုန်။(၁)

أَمْـثِـلَـةُ ثابت الحرف ومحذوفه – တည်နေသောအက္ခရာနှင့် ဖြုတ်ထားသောအက္ခရာတို့၏ဥပမာများ (၁) اَلأَلِـفُ သည် အထက်ဖော်ပြပါ ရေးထုံး၌ တည်ရှိနေသည့်အတွက် (وَصْـلٌ) (ခေါ်) ဆက်ဖတ်ရာတွင် ယင်းအက္ခရာအား ဖော်ထုတ်ဖတ်ရသည်ဖြစ်စေ၊ မဖတ်ရသည်ဖြစ်စေ (وَقْفٌ) (ခေါ်) ရပ်နားသည့်အခါ၌လည်း တည်ရှိနေမည်ဖြစ်သည်။ ဥပမာ –

﴿ رَبَّنَا ظَلَمْنَا أَنْفُسَنَا وَإِنْ لَّمْ تَغْفِرْلَنَا وَتَرْحَمْنَا لَنَكُوْنَنَّ مِنَ الْخَاسِرِيْنَ ﴾(၂)

ဖော်ပြပါဥပမာများ၌ اَلِفٌ တည်ရှိပုံမှာ ၎င်း၏နောက်တွင်လာရှိသော အက္ခရာ သည် مُـتَحَرِّكَةٌ ဖြစ်လျက် တည်ရှိပုံဖြစ်သည်။ အောက်ပါဥပမာများ၌ اَلِفٌ တည်ရှိပုံမှာ ၎င်း၏နောက်တွင်လာရှိသော အက္ခရာသည် سَاكِـنَةٌ ဖြစ်လျက် တည်ရှိပုံ ဖြစ်သည်။ ဥပမာ –

﴿ فَلَـمَّا ذَاقَا الشَّجَـرَةَ ﴾ ﴿ دَعَوَا اللّٰهَ رَبَّـهُـمَا ﴾ ﴿ وَاسْتَبَـقَـاالْبَابَ ﴾
﴿ كِلْتَا الْجَـنَّتَيْـنِ ﴾ ﴿ وَقَالَا الْحَـمْـدُ لِلّٰهِ ﴾ ﴿ وَأُوْتِـيـنَـا الـعِـلْـمَ ﴾
﴿ وَقِـيْـلَ ادْخُـلاَ الـنَّارَ ﴾ ﴿ أَيُّهَا ﴾(၃)

---

(١) إذا كـان آخـرُ الكلمة المو قوفِ عليها حرفًا من حروف المد الثلاثة ،فإن كان هذا الحرفُ ثـابتًـا فـى رسـم الـمـصاحف العثمانية فالوقفُ على الكلمة يكونُ بإثبات حرف المدّ فيها. (أحكا م قـراء ة القر آن الكريم ص ٢٨٩)

(٢) (الألف) إذا كـانـت ثـابتةً فـى الرسم فتكون ثابتة عند الوقف،سواء كانت ثابتة فى الوصل أيـضـاً بـأن كان ما بعدهامتحركًانحو. ﴿ رَبَّنَا ظَلَمْنَا الخ ﴾. أم كانت محذو فةً فى الوصل بـأن كان ما بعدها ساكناً نحو. ﴿ فلما ذَاقَا الشَّجَرَةَ ﴾. وماأشبهها.(أحكام قـراء ة القر آن الكريم ص ٢٨٩) بتغيّر يسير (المؤلّف).

(٣) ونـحـو الألف التى بـعـد الهـاءِ لـفـظ ﴿ أَيُّهـا ﴾ . نـحـو: ﴿ يَـاأَيُّهَا الَذِيْنَ آمَنُوْا ﴾ ﴿ يَـاأَيُّهَـاالنَّاسُ ﴾ ﴿ يَـاأَيُّهَا النَّبِـيُّ ﴾ (وهكذا فى أحكا م قـراء ة القر آن الكريم ص ٢٨٩) بتـغـيّـر يـسـيـر(المؤلّف)

(၁) အောက်ပါဥပမာများ၌ اَلِفٌ တည်ရှိပုံမှာငင်း၏နောက်တွင်လာရှိသောအက္ခရာ သည် مُـتَحَرِّكَةٌ ဖြစ်လျက် တည်ရှိပုံဖြစ်သည်။

﴿وَتَظُنُّونَ بِاللّٰهِ الظُّنُوْنَا﴾ اَلأحزاب :الآية ١٠. ﴿الرَّسُوْلَا﴾ اَلأحزاب :الآية ٦٦ ﴿السَّبِيْلَا﴾ اَلأحزاب :الآية ٦٧.

(၂) ကုရ်အာန်ကျမ်းမြတ်၌ လာရှိသော﴿أَنَاْ﴾ဟူသည့်စာလုံးတွင်ပါရှိသော اَلِفٌ သည် မိမိနောက်တွင် هَمْزَةٌ ရှိသည်ဖြစ်စေ၊ ဥပမာ -

﴿ أَنَاْ أُحْيِىْ وَأُمِيْتُ ﴾ ﴿ وَأَنَاْ أَوَّلُ الْمُسْلِمِيْنَ ﴾ ﴿ إِنْ أَنَاْ إِلَّانَذِيْرٌ ﴾ ﴿وَأَنَاْ بِهِ زَعِيْمٌ ﴾ ﴿ أَنَاْنَذِيْرٌ﴾-(သို့မဟုတ်) هَمْزَةٌ မရှိသည်ဖြစ်စေ၊ ဥပမာ-

အထက်ဖော်ပြပါ ရေးထုံး၌ တည်ရှိနေသည့်အတွက် ( وَصْـلٌ ) (ခေါ်) ဆက်ဖတ် ရာတွင် ယင်းအက္ခရာအား ဖော်ထုတ်မဖတ်ရသည်ဖြစ်သော်ငြားလည်း (وَقْفٌ) (ခေါ်) ရပ်နားသည့်အခါတွင် တည်ရှိနေမည်ဖြစ်သည်။ ထို့အတူ ﴿لٰـكِـنَّاْ﴾ الكهف:٣٨ နှင့် အောက်ပါတို့သည်လည်း ဥပဒေတစ်မျိုးတည်းဖြစ်ကြောင်း မှတ်သားကုန်။

(၃) ﴿ قَـوَارِيْـرَا ﴾ الـدهـر : الآية ١٥ တွင် ပထမစာလုံးမှာ ( رَسْـمـاً ) ရေးထုံးအရ اَلِــفٌ ပါရှိသည်။ ဒုတိယစာလုံးမှာ (رَسْــمــاً) ရေးထုံးအရ اَلِفٌ ပါရှိသော်လည်း ကျွန်ုပ်တို့၏အေမာန်ဟဖ်ဆွဲ (حَفْصٌ) သခင်က ( وَقْـفًاوَوَصْلًا ) ဆက်ဖတ်သည်ဖြစ်စေ၊ ရပ်နားသည်ဖြစ်စေ اَلِفٌ ကို ဖြုတ်လျက်ဖတ်ရမည်ဟု ဆုံးဖြတ်ထားသည်။ (١)

---

(١) بل هى ثابتة ، ولكنها تحذف وقفاً و وصلاً عند حفصٌ. (تعليق أحكام قراءة القرآن الكريم : ص ٢٩١)

قرأحفصٌ بغيرالألف فى الوصل فيهما ، ووقف على الأول بالألف وعلى الثانى بغير الألف ١٢-

(၄) ﴿وَلَيَكُوْنًا﴾ يوسف ـ الآية٣٢ ﴿ لَنَسْفَعًا ﴾ العلق : الآية ١٥ တွင်ပါရှိသော တန္ဝီးန်အစား ရပ်တည်ရသည့် اَلِفْ ဖြစ်သည်။ ဥပမာ – تَــنْـوِيْــنٌ သည် اَلِفْ တနွင ﴿وُدًّا﴾ ﴿تقيًا﴾ ﴿حَكِيْمًا﴾ ﴿عَلِيْمًا﴾ တို့တွင်ရပ်သည့်အခါ ألف အစား ألف ဖြင့် ရပ်ရသကဲ့သို့ဖြစ်သည်။

﴿إِذًا﴾ ဟူသောစာလုံးတွင် تَـنْـوِيْـنٌ နှင့်လာသည့်အခါ ပါရှိသော اَلِف နှင့် အလားတူ اَلِفْ များအား ဆက်ဖတ်ရာတွင် ဖြုတ်လျက်ဖတ်ပြီး ရပ်နားရာတွင်သာ တည်ရှိစေရမည်။ ဥပမာ –

﴿فَإِذًالاَيُؤْتُوْنَ النَاسَ نَقِيْرًا﴾ ﴿إِذًالاَبْتَغوْا إِلَى﴾ ﴿وَإِذًا لاَيَلْبَثُوْنَ خِلاَفَكَ﴾

(၅) အထက်ပါ ဥပဒေတွင် အကျုံးမဝင်သောပုံစံ၊ ဥပမာ –

﴿أَلاَإِنَّ ثَمُوْدَاْ كَفَرُوْا رَبَّهُمْ﴾ هود : الآية ٦٨ ﴿ وَعَادًا وَثَمُوْدَاْ وَأَصْحٰبَ الرَّسِّ ﴾ الفرقان : الآية ٣٨ ﴿ وَعَادًا وَثَمُوْدَاْ وَقَدْ تَبَيَّنَ لَكُمْ ـ العنكبوت : الآية ٣٨﴾

﴿ وَثَمُوْدَاْ فَمَآ أَبْقٰى ـ النجم : الآية ٥١﴾

ဖော်ပြပါဥပမာများ၌ ပါရှိသော اَلِفْ သည် (رَسْمًا) ရေးထုံးအရ တည်ရှိနေသော်လည်း وَصْلاًوَوَقْفًا နှစ်မျိုးလုံးတွင် ဖြုတ်၍ဖတ်ရမည်။

(၆) ﴿ سَلاَسِلاْ ﴾ الدهر : الآية ٤ တွင်ပါရှိသော اَلِفْ သည် (رَسْمًا) ရေးထုံးအရ တည်ရှိနေသော်လည်း ရပ်နားသည့်အခါတွင် အေမာမ်ဟဖ်ဆ်ထံ၌ နှစ်မျိုးလုံးပိုင်သည်။ اَلإِثْبَاتُ အတည်ပြုဖတ်ခြင်း၊ الحَذْفُ ဖြုတ်ဖတ်ခြင်း။ သို့သော် ဆက်ဖတ်ရာတွင် ဖြုတ်၍ဖတ်ရမည်။

ثَابِتُ الْحَرْفِ وَمَحْذُوْفُهٗ – တည်နေသောအက္ခရာနှင့် ဖြုတ်ထားသော အက္ခရာတို့အကြောင်းသည် အလွန်ကျယ်ပြန့်ပါသည်။ သီးသန့်စာစောင်တစ်ခု

ပြုစုရန် လိုအပ်သည့်အခန်းကဏ္ဍဖြစ်ပြီး ထို့အတူ ကျမ်းလေးမည်ကို စိုးရိမ်၍ ဤမှုနှင့်သာ ရပ်နားလိုပါသည်။



الوقفُ الاختياريُّ မှာ (၅)မျိုးရှိလေသည်။

(၁) تَامٌّ (၂) كَافٍ (၃) لاَزِمٌ (၄) حَسَنٌ (၅) قَبِيحٌ တို့ဖြစ်ပါသည်။

(၁) الـوقفُ الـتَّـامُّ ဟူသည်မှာ ပြီးပြည့်စုံသည့်ဝါကျအပြီးတွင် ရပ်နားခြင်းကို ခေါ်ဆိုပါသည်။ ထိုဝါကျသည် မိမိနောက်တွင်လာရှိသော ဝါကျဖြင့် စာလုံးအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း ဆက်နွယ်ပတ်သက်မှု မရှိပေ။

ဥပမာ - ﴿ مٰلِكِ يَوْمِ الدِّيْنِ ﴾ တွင်ရပ်နားပြီး ﴿ إِيَّاكَ نَعْبُدُ . . . ﴾ မှ အစပြုပုံ။ ﴿وَمِنْ ذُرِّيَتِهِمَا مُحْسِنٌ وَظَالِمٌ لِنَفْسِهٖ مُبِيْنٌ﴾ الصافات ـ الآية ١١٣

﴿ تَوَفَّنِىْ مُسْلِمًا وَأَلْحِقْنِىْ بِالصّٰلِحِيْنَ ﴾ يوسف ـ الآية ١٠١

(၂) الـوقفُ الكَافِىْ ဟူသည်မှာ ဤကဲ့သို့ ပြီးပြည့်စုံသောဝါကျအပြီးတွင် ရပါနားခြင်း၊ ယင်းဝါကျသည် နောက်မှလာသောဝါကျဖြင့် စာလုံးအရ ဆက်နွယ်မှုမရှိသော်လည်း အဓိပ္ပါယ်အရ ဆက်နွယ်မှုရှိနေပေသည်။

ဥပမာ- ﴿كُلٌّ لَّهٗ قَانِتُوْنَ ـ البقرة : الآية ١١٦ ﴾

﴿ أَكْثَرُهُمْ لاَيَعْقِلُوْنَ ـ الحجرات : الآية ٤ ﴾

﴿ ذٰلِكَ يَوْمُ الْخُلُوْدِ ـ قٓ : الآية ٣٤ ﴾

(၃) الـوقفُ الـلاَزِمُ ဟူသည်မှာ အဓိပ္ပါယ်ပြီးပြည့်စုံသော ဝါကျအဆုံးတွင် ရပ်နားခြင်းကို ခေါ်ဆိုပါသည်။ အကယ်၍ မရပ်နားဘဲ နောက်တွင်လာရှိသော ဝါကျပါ

စာလုံးတစ်ခုခုကို ဖတ်ရွတ်ပြီး ရပ်နားလိုက်ပါက အလ္လာဟ်အရှင်မြတ် ဆိုလိုသော အဓိပ္ပါယ်အပြင် အခြားအဓိပ္ပါယ်များ ပေါ်ထွက်လာနိုင်ဖွယ်ရာ ရှိသည့်အတွက်ကြောင့် ဖြစ်သည်။

ဥပမာ - ﴿ وَلَا يَحْزُنْكَ قَوْلُهُمْ ـ يونس : الآية ٦٥ ﴾ -

﴿ فَلَا يَحْزُنْكَ قَوْلُهُمْ ـ يٰسٓ : الآية ٧٦ ﴾

﴿ فَتَوَلَّ عَنْهُمْ ـ القمر : الآية ٦ ﴾

(၄) الـوقفُ الـحَسَـنُ ဟူသည်မှာ ဤကဲ့သို့ အဓိပ္ပါယ်ပြည့်စုံသော ဝါကျ အဆုံးတွင် ရပ်နားခြင်း၊ ယင်းဝါကျသည် နောက်တွင်လာသောဝါကျဖြင့် စာသားအရသာမက အဓိပ္ပါယ်အရပါ ဆက်နွယ်မှုရှိနေခြင်းကို ခေါ်ဆိုပါသည်။

ဥပမာ- ﴿ اَلْحَمْدُ لِلّٰهِ ﴾ ﴿ وَيَوْمَئِذٍ يَفْرَحُ الْمُؤْمِنُوْنَ ـ الرُّوم : الآية ٤ ﴾

﴿ بُشْرٰ كُمُ الْيَوْمَ جَنّٰتٌ ـ الحديد : الآية ١٢ ﴾

﴿ يٰأَيُّهَاالنَّبِيُّ إِنَّاأَرْسَلْنٰكَ ـ الأحزاب : الآية ٤٥ ﴾

(၅) الـــوقفُ الـــقَبِيْـــحُ ဟူသည်မှာ ဝါကျမပြည့်စုံမီ ရပ်နားခြင်းကိုခေါ်ဆိုသည်။ အကြောင်းမှာ ဝါကျပြည့်စုံရန် နောက်တွင်လာရှိနေသော စာလုံးများဖြင့် စာသားအရ သာမက အဓိပ္ပါယ်အရလည်း အလွန်တရာ ဆက်နွယ်ပတ်သက်နေသည့်အတွက် ကြောင့် ဖြစ်ပါသည်။

ဥပမာ - ﴿ بِسْمِ اللّٰهِ ﴾ တွင် (بِسْمِ) မှာ ရပ်နားခြင်း။

﴿ اَلْحَمْدُ لِلّٰهِ ﴾ တွင် (اَلْحَمْدُ) မှာ ရပ်နားခြင်း။

﴿ لَاتَقْرَبُوا الصَّلٰوةَ ـ النساء : الآية ٣٤ ﴾

﴿ إِنِّىْ كَفَرْتُ ـ إبراهيم : الآية ٢٢ ﴾

ဤသို့ ရပ်နားပိုင်ခွင့်မရှိပါ။ သို့သော် အကျပ်အတည်းဖြစ်သည့်အခါတွင်သာ အခွင့်ရှိသည်။



## أَوْجُهُ الْوَقْفِ عَلى أَوَاخِرِ الْكَلِمِ

### "စာလုံးများ၏ နောက်ဆုံးအက္ခရာများပေါ်တွင် ရပ်နားနည်းများအကြောင်း"

ဤအခန်းတွင် ဖော်ပြမည့် ရပ်နားနည်းဟူသည်မှာ စာလုံးများ၏နောက်ဆုံး အက္ခရာများတွင်တည်ရှိနေသော သရများနှင့်သာ အထူးသဖြင့် သက်ဆိုင်ကြောင်းကို သိစေလိုပါသည်။ အထက်တွင် ဖော်ပြခဲ့သော وَقْفٌ ၏အမျိုးအစားများနှင့် မတူကြောင်း လေ့လာသိရှိနိုင်ပါသည်။

စာလုံးများ၏ နောက်ဆုံးအက္ခရာများပေါ်တွင် ရပ်နားနည်းများမှာ (၃)မျိုးရှိပါသည်။

اَلإِشْمَامُ (၃)  اَلرَّوْمُ (၂)  اَلإِسْكَانُ الْمَحْضُ (၁)

(၁) اَلإِسْـكَانُ الْمَحْـضُ ဟူသည်မှာ စာလုံးတိုင်း၏ နောက်ဆုံးအက္ခရာတွင်ရှိသော حَرَكَةٌ အား လုံးဝပပျောက်အောင် ပြုလုပ်ခြင်းကို ခေါ်ဆိုပါသည်။(١)

ဥပမာ- يَعْلَمُوْنْ ـ عَلَيْهِمُ الذِّلَّةْ ـ اَنْعَمْتَ عَلَـيْهِمْ ـ وَالْمَسْكَنَـهْ ـ

هُـمَزَةٍ لُّمَزَهْ ﴿١﴾ مَالاً وَّعَدَّدَهْ ﴿٢﴾ أَخْلَدَهْ ﴿٣﴾ فِى الْحُطَمَهْ ﴿٤﴾ .

لَكِنَّاْ .﴿الكهف: ٣٨﴾ . أَفْوَاجَا﴿النصر :٢﴾.

---

(١) هـوإعـدام الحركة بالكلية ، ويكون فى آخركل كلمة، ويختص به تاءُ التأنيث الموقوف عليها بـالهـاء، ومـاكـان سـاكـنـاً في حال الوصل، ومنه ميم الجمع ولو حُرّكت على الأصح، وماكانت حركته عارضة، وماكان متحركًا بالفتح أو منصوباً أبدل تنو ينه ألفًا. (مفتاح التجويد ص ٨٧ )

